

# ပြည်သူ့အတွက် မြန်မာစကားပြေ

## မောင်ခင်မင်(ဓနုဖြူ)

စကားပြေသည် ပြည်သူ့အသုံးအဆောင်

စကားပြေကိုလေ့လာသောအခါ

စကားပြေကို ထိရောက်စွာအသုံးချရေး

မှန်မှန်ကန်ကန်

ရှင်းရှင်းလင်းလင်း

တိတိကျကျ

ကျစ်ကျစ်လျစ်လျစ်

ပြေပြေပြစ်ပြစ်

လိုက်ဖက်ညီညီ

## ဒို့တာဝန်အရေးသုံးပါး

- ♦ ပြည်ထောင်စုမပြိုကွဲရေး ဒို့အရေး
- ♦ တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး ဒို့အရေး
- ♦ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး ဒို့အရေး

## ပြည်သူ့သဘောထား

- ❖ ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
- ❖ နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
- ❖ နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
- ❖ ပြည်တွင်းပြည်ပအဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေး ဦးတည်ချက် (၄) ရပ်

- ⁕ နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး၊
- ⁕ အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး၊
- ⁕ ခိုင်မာသည့်ဖွဲ့စည်းပုံ အခြေခံဥပဒေသစ်တစ်ရပ် ဖြစ်ပေါ်လာရေး၊
- ⁕ ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ်တည်ဆောက်ရေး။

## စီးပွားရေး ဦးတည်ချက် (၄) ရပ်

- ⁕ စိုက်ပျိုးရေးကို အခြေခံ၍ အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး။
- ⁕ ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာ ဖြစ်ပေါ်လာရေး။
- ⁕ ပြည်တွင်းပြည်ပ အတတ်ပညာနှင့် အရင်းအနှီးများ ဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး။
- ⁕ နိုင်ငံတော် စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှု စွမ်းအားသည် နိုင်ငံတော်နှင့်တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး။

## လူမှုရေးဦးတည်ချက် (၄) ရပ်

- ⁕ တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး။
- ⁕ အမျိုးဂုဏ် ဇာတိဂုဏ် မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ အမျိုးသားရေးလက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး။
- ⁕ မျိုးချစ်စိတ်ဓာတ်ရှင်သန်ထက်မြက်ရေး။
- ⁕ တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး။

# ပြည်သူ့အတွက် မြန်မာစကားပြေ

မောင်ခင်မင် (ဓနုဖြူ)



ကံ့ကော်ဝတ်ရည်စာပေ
၅၁၊ ရေကျော်လမ်း၊
ပုဇွန်တောင်၊ ရန်ကုန်မြို့။

ပုံနှိပ်မှတ်တမ်း

စာမူခွင့်ပြုချက်အမှတ် - ၄၆၄/၂၀၀၃ (၅)
မျက်နှာဖုံးခွင့်ပြုချက်အမှတ် - ၈၁၅/၂၀၀၃ (၉)



ပုံနှိပ်ခြင်း

ဒုတိယအကြိမ် - ၂၀၀၃ ခုနှစ်၊ နိုဝင်ဘာလ
အုပ်ရေ - (၅၀၀)



မျက်နှာဖုံးပုံနှိပ်သူ
ဦးတိုးဝင်း၊ နေလရောင်ပုံနှိပ်တိုက်
၉၆/ခ၊ ၁၁ လမ်း၊ လမ်းမတော်၊ ရန်ကုန်မြို့။



အတွင်းပုံနှိပ်သူ
ဦးစွန့်ကော်ယူ၊ မာကျူရီပုံနှိပ်တိုက်၊
၄၉၊ ရေကျော်လမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။



ထုတ်ဝေသူ
ဒေါ်မိုးကေခိုင်၊ ချိုတေးသံစာပေ
ရွှေနံ့သာကျေးရွာ၊ ပုလဲမြို့ (၃)၊
မင်္ဂလာဒုံ၊ ရန်ကုန်မြို့။



မျက်နှာဖုံးပန်းချီ
မြင့်မောင်ကျော်



တန်ဖိုး
၄၀၀-ကျပ်

# မာတိကာ

# နိဒါန်း

ပြည်သူတို့သည် နေ့စဉ်နှင့်အမျှ စကားပြေများကို ဖတ်နေကြရ သည်။ ရေးနေကြရသည်။ စကားပြေသည် ပြည်သူတို့အတွက် မသုံးမဖြစ် အသုံးပြုနေရသော အသုံးအဆောင် ဖြစ်သည်။ ဤသို့ အသုံးပြုရာတွင် မိမိတို့ ဆိုလိုသည့်အတိုင်း စာဖတ်သူက နားလည်သွားအောင် ရေးသား ဖော်ပြနိုင်ရန် အလွန် လိုအပ်ပါသည်။ ဤလိုအပ်ချက်ကို တစ်စိတ်တစ်ပိုင်း ဖြည့်ဆည်းလိုသော ရည်ရွယ်ချက်ဖြင့် ဤစာအုပ်ကို ပြုစုခြင်းဖြစ်ပါသည်။

စကားပြေရေးရာတွင် အခြေခံအားဖြင့် စကားလုံးများကို ဝါကျ ဖြစ်အောင်ဖွဲ့ပြီး မိမိဆိုလိုချက်ကို ဝါကျများဖြင့် ဖော်ပြရမြဲ ဖြစ်ပါသည်။ ဤသို့ ဖော်ပြရာတွင် အမှားအယွင်းများ၊ ပျော့ကွက် ဟာကွက်များကို ရှောင်ရှားပြီး စာရေးသူ ဆိုလိုသည့်အတိုင်း စာဖတ်သူက နားလည်အောင် စကားသုံးနိုင်မည်၊ ဝါကျဖွဲ့နိုင်မည်ဆိုပါက အခြေခံ လိုအပ်ချက်နှင့် ပြည့်စုံ ပါပြီ။

ဤစာအုပ်တွင် အဆိုပါ အခြေခံ လိုအပ်ချက်ဖြစ်သော စကား သုံးနှုန်းမှု၊ ဝါကျဖွဲ့မှုဆိုင်ရာ ဂရုပြုဖွယ်ရာများကို သာဓကများဖြင့် တင်ပြ ဆွေးနွေးသွားမည် ဖြစ်ပါသည်။

ဤစာအုပ်သည် စကားပြေကို နေ့စဉ်အသုံးပြုနေရသော ပြည်သူတို့ အတွက် တစ်ဖက်တစ်လမ်း အထောက်အကူပြုနိုင်လိမ့်မည်ဟု ယုံကြည် ပါသည်။ ။

## အခန်း (၁)
## စကားပြေသည် ပြည်သူ့အသုံးအဆောင်

စာပေ၌ စကားပြေသည် အချက်အချာ မဏ္ဍိုင်ဖြစ်၏။ စကားပြေကို လူတို့ နေ့စဉ် သုံးစွဲနေကြသည် မှန်၏။ သို့သော် စကားပြေကောင်းတို့သည် ရှားပါးလှသည်။ စကားပြေကောင်း ရေးတတ်သော လူမျိုးတို့၏ စာပေသည် ကြီးပွားတိုးတက်၏။ စာပေတိုးတက်သည်နှင့်အမျှ လူမျိုးလည်းကြီးပွားတိုးတက်၏။[1]

စကားပြေ အရေးပါပုံနှင့် ပတ်သက်၍ မြန်မာစွယ်စုံကျမ်းတွင် ဖော်ပြထားချက် ဖြစ်ပါသည်။ ထို့အတူ 'စကားပြေ စာပေအသက်' ဟု ကြွေးကြော်ခဲ့ဖူးသော ဆရာ မင်းသုဝဏ်ကလည်း -

ယခုအခါ ကြီးပွားနေသောလူမျိုးများ၏ စာပေကိုကြည့်ပြန် လျှင်လည်း စကားပြေက အထူးအရေးကြီးနေသည်ကို တွေ့ရပါ သည်။ ဝိဇ္ဇာဆိုင်ရာပညာရပ်များနှင့် သိပ္ပံဆိုင်ရာ ပညာရပ်များကို စကားပြေနှင့် ရေးသားထားကြသည်မှာ စာအုပ်ပေါင်း သိန်းသန်း

---

မြန်မာ့စွယ်စုံကျမ်း အတွဲ ၃။ စာ၊ ၃၁၀

ရှိပါသည်။ ထိုစကားပြေကျမ်းများကို အားကိုး၍ လူမျိုးတို့ ကြီးပွား ထွန်းကားနေသည်မှာ အထင်အရှား ဖြစ်ပါသည်။[၂]

ဟု သက်သေထူဖူးပါသည်။

မှန်ပါသည်။ စကားပြေသည် ပြည်သူတို့နေ့စဉ်အသုံးပြုနေရသော အသုံးအဆောင် ဖြစ်ပါသည်။ ပညာရပ်အမျိုးမျိုးကို ရေးသားသိမ်းရာ အသုံးအဆောင်လည်း ဖြစ်ပါသည်။ အသုံးမဖြစ် အရေးပါသော အသုံး အဆောင်လည်း ဖြစ်ပါသည်။ ထိုအသုံးအဆောင်ကား လူအမျိုးမျိုး ဘဝ အထွေထွေထဲတွင် ဝင်ရောက်နေရာယူနေသည်မှာ အမှန်ပင် ဖြစ်လေသည်။ စဉ်းစားကြည့်ပါ။ ကျောင်းသားဆိုလျှင်လည်း ကျောင်းသားအလျောက် စကားပြေကို အသုံးပြုရမြဲဖြစ်သည်။ အလုပ်သမားဆိုလျှင်လည်း အလုပ် သမားအလျောက် စကားပြေနှင့် ထိတွေ့ရမြဲဖြစ်သည်။ လယ်သမား ဆိုလျှင်လည်း လယ်သမားအလျောက် စကားပြေနှင့် မကင်းနိုင်ပါ။ အဆုံးဆိုရလျှင် အိမ်ထဲကအိမ်ပြင်မထွက်သည့် အိမ်ရှင်မသည်ပင် အိမ်ရှင်မ အလျောက် စကားပြေနှင့် ထိတွေ့ရသည်သာ ဖြစ်ပါသည်။

ကျောင်းသားဆိုလျှင် ကျောင်းနေပြီဆိုကတည်းက စကားပြေနှင့် ထိတွေ့ရတော့သည်။ သင်ပုန်းကြီး ဖတ်စာကစပြီး စကားပြေဖြင့်ရေးထား သော ကျောင်းစာအမျိုးမျိုးကို အတန်းစဉ်အတိုင်း ကျက်ရ မှတ်ရသည်။ ပြင်ပ ဗဟုသုတ ရှာမှီးလိုလျှင်လည်း စကားပြေဖြင့်ပင် ရေးထားသောစာအုပ် စာတမ်းများကို ဖတ်ရ ရှုရသည်။ ကျောင်းတွင် ဆရာများ သင်ကြားပို့ချ ပေးသမျှကိုလည်း စကားပြေဖြင့်ပင် ရေးရ မှတ်ရသည်။ အတန်းတွင်း လေ့ကျင့်ခန်း အမျိုးမျိုးကိုလည်း စကားပြေဖြင့်ပင် ရေးသား ဖြေဆိုရ

---

၂။ မင်းသုဝဏ်။ စကားပြေ စာပေအသက်၊ နဝရတ်ကိုးသွယ် စာ၊ ၂၆၃။

သည်။ ဤသို့ဖြင့် စကားပြေသည် ကျောင်းသားဘဝ သက်တမ်းတစ်လျှောက်လုံး ထိတွေ့ရင်းနှီးရသော မိတ်ဆွေကြီး ဖြစ်လာရတော့သည်။

အလုပ်သမားဘဝ ရောက်သည့်အခါတွင်လည်း စကားပြေဆိုသော မိတ်ဆွေကြီးက တန်းတန်းစွဲ ဖက်တွယ်လိုက်ပါလာပြန်သည်။ အပေါင်းအသင်း မလုပ်ချင်ပါဟု ငြင်းဆန်၍လည်း မရ။ လုပ်ငန်းခွင်တွင် စကားပြေဖြင့် ရေးထားသော ရုံးစာအမျိုးမျိုးကို ဖတ်လိုက်၊ စကားပြေဖြင့်ပင် အစီရင်ခံစာအမျိုးမျိုးကို ရေးလိုက်၊ ရာထူးအဆင့်မြင့်လာသောအခါ စကားပြေဖြင့်ပင် ညွှန်ကြားချက်များ၊ အမိန့်စာများ ရေးလိုက်၊ စကားပြေဖြင့်ပင် မိန့်ခွန်းများရေးပြီး အခမ်းအနားများတွင် ဟောလိုက်၊ ပြောလိုက်နှင့် တစ်ချိန်လုံး စကားပြေနှင့် လုံးလားထွေးလား ဖြစ်နေရတော့သည်။

တောင်သူလယ်သမား ဆိုလျှင်ကော။ စကားပြေနှင့် သူ့အလုပ်ဘာမှ မပတ်သက်သလို ထင်ရသော်လည်း တကယ်တမ်းမူ သူလည်း စကားပြေနှင့် မကင်းနိုင်ပါ။ သတင်းစာတွင် စကားပြေဖြင့် ရေးထားသော မိုးလေဝသ သတိပေးချက်၊ စပါးရောင်းချရန် ကြေညာချက်များကအစ ဘယ်ဓာတ်မြေသြဇာ အမျိုးအစားကို ဘယ်၍ ဘယ်မျှထည့်ပြီး ဘယ်လိုဘယ်ပုံ အသုံးပြုရမည် စသည်ဖြင့် ပညာပေးထားသော စာရွက်စာတမ်းများအထိ ဖတ်ရ ရှုရသည်။

အိမ်ထဲက အိမ်ပြင်မထွက်သည့် အိမ်ရှင်မ ဆိုလျှင်လည်း ထို့အတူပင်။ ဈေးစာရင်းကလေး မှတ်သည်ကအစ စကားပြေကို သုံးရသည်။ ရပ်ဝေးရှိ ဆွေမျိုးသားချင်းများထံ စာရေးလျှင်လည်း စကားပြေကို သုံးစွဲရသည်။ စိတ်ပန်းဖြေသည့် အနေနှင့် ရုပ်ပြဇာတ်လမ်းကလေးအစ၊ ဝတ္ထုကလေးအစ ဖတ်လျှင်လည်း စကားပြေနှင့် ထိတွေ့ရသည်ပင် ဖြစ်သည်။

ဤသို့ဖြင့် ဘဝအထွေထွေမှ ပြည်သူတို့သည် နေ့စဉ်နှင့်အမျှ

စကားပြေ ရေးနေကြရသည်။ စကားပြေ ဖတ်နေကြရသည်။ ရေးသည့် သားသည့် ကိစ္စတွင် အိမ်ရှင်မတစ်ယောက် နေ့စဉ် ဈေးစာရင်းမှတ်သည့် ကိစ္စကလေးမျိုးကအစ မိတ်ဆွေသူငယ်ချင်းထံ စာရေးသည့် ကိစ္စမျိုးအလယ် စာပေကျမ်းဂန်ပြုစုသည့် ကိစ္စမျိုးအဆုံး စကားပြေကို အသုံးပြုကာ ရေးရ သားရကြောင်း ထင်ရှားလောက်ပါပြီ။ ဖတ်သည့် ရှုသည့် ကိစ္စတွင်လည်း နေ့စဉ် သတင်းစာကအစ ကျောင်းစာ၊ ရုံးစာ အလယ် ဂန္ထဝင်ဝတ္ထုကြီးများ အဆုံး စကားပြေဖြင့် ရေးသားထားသည်တို့ကို ဖတ်ရ ရှုရကြောင်း ထင်ရှားလောက်ပါပြီ။ သို့ဖြစ်လျှင် ပြည်သူထဲတွင် ထိုမျှ အသုံးတွင်ကျယ် သော စကားပြေကို ပြည်သူ့အသုံးအဆောင်ဟု မခေါ်ထိုက်ပါသလော။ ခေါ်ထိုက်ကြောင်း ထင်ရှားလောက်ပါပြီ။

ကဗျာဟူသည် ပညာရှိတို့၏ ဥစ္စာဖြစ်သည်ဟူသော အဆိုတစ်ရပ် ရှိပါသည်။[၃] ကဗျာကို ပညာရှိတို့သာ ဖွဲ့ဆို ကျက်စားနိုင်သည်ဟူသော အဓိပ္ပာယ်ဖြင့် ဆိုထားပုံရပါသည်။ ကဗျာသည် ပညာရှိဥစ္စာ ဖြစ်သည်ဟု ဆိုလျှင် စကားပြေသည် ပြည်သူ့ဥစ္စာ(တစ်နည်း) ပြည်သူ့ အသုံးအဆောင် ဖြစ်သည်ဟု မုချ ဆိုသင့်ပါသည်။ အကြောင်းမူ စကားပြေကို ပညာရှိများသာ မကဘဲ ပြည်သူတစ်ရပ်လုံး ကျယ်ကျယ်ပြန့်ပြန့် အသုံးပြုနေကြသောကြောင့် ဖြစ်ပါသည်။ သို့ဖြစ်လျှင် ပညာရှိဥစ္စာဖြစ်သော ကဗျာထက် ပြည်သူ့ဥစ္စာ ဖြစ်သော စကားပြေက ပို၍ အသုံးတွင်ကျယ်ကြောင်း ယုံမှားဖွယ် မရှိ နိုင်ပါ။

သို့သော် တစ်ချိန်က မြန်မာစာပေ လေ့လာမှု နယ်ပယ်တွင် စကားပြေသည် ကဗျာလောက် နေရာမရခဲ့ပေ။ လေ့လာသူတို့က စကား

---

၃။ မိုင်းခိုင်းမြို့စား အတွင်းဝန်၊ ပိဋကတ်သမိုင်းစာတမ်း၊ စာ၊ ၂၀၀။

ပြေကို ကဗျာလောက် အလေးထား လေ့လာခြင်း မပြုခဲ့ပါ။ ထို့ကြောင့် -

မြန်မာလူမျိုးတို့ကား ကဗျာနှင့် စကားပြေနှစ်ခုအနက် ကဗျာကို အထူးနှစ်သက်ဟန် ရှိသည်။ အထူး လေ့လာလိုက်စားကြ၏။ စကားပြေကိုကား ဝတ္ထုအကြောင်းအရာအတွက်မှတစ်ပါး စကားသုံးနှုန်းပုံ၊ ဝါကျစီစဉ်ပုံ၊ ဝတ္ထုအကြောင်း ဆင်ယင်ပုံတို့ကို လေ့လာမှတ်သားဖို့ရန် ဂရုမပြုသယောင် ရှိလေသည်။ ဤသည်ကား စာပေအတွက် ချွတ်ယွင်းချက်ကြီးတစ်ခု ဖြစ်လေတော့၏။[၄]

ဟူ၍ ဆရာကြီး ဦးဖေမောင်တင်က အားမလို အားမရ မှတ်ချက် ချခဲ့ဖူးပါသည်။

ယခုခေတ်တွင်ကား စကားပြေသည် နေရာမှန်ကို ရနေပြီဟု ဆိုရပါလိမ့်မည်။ စကားပြေ အရေးကြီးသည်ဟူသော ပြောသံ ဆိုသံများကို ကြားနေရပါပြီ။ ကျောင်းများ၊ တက္ကသိုလ်များတွင် စကားပြေကို အလေးထား သင်ကြားပို့ချနေကြပေပြီ။ စာပေလောကတွင် စကားပြေ သဘောတရားများ လေ့လာဆည်းပူးနေကြပါပြီ။ စကားပြေရေးနည်း သားနည်း အတတ်ပညာ များကို စူးစမ်းဖော်ထုတ်နေကြပါပြီ။ စကားပြေ အရေးအသားများကို ဆန်းစစ်နေကြပါပြီ။ ပြည်သူထဲတွင် ကျယ်ကျယ်ပြန့်ပြန့် နေရာယူလျက် ရှိသော စကားပြေ၏ အာနိသင်ကို တလေးတစား ဂရုပြုမိနေကြပါပြီ။ ခြုံ၍ဆိုရသော် စကားပြေကို မသုံးမဖြစ် အရေးပါသော ပြည်သူ့ အသုံး အဆောင်အဖြစ် ထိုက်ထိုက်တန်တန် နေရာပေးနေကြပြီဟု ဆိုရမည် ဖြစ်ပါသတည်း။ ။



၄။ ဦးဖေမောင်တင်၊ အထက်တန်း မြန်မာစကားပြေ ကောက်နုတ်ချက်များ၊ နိဒါန်း၊ စာ (က)

## အခန်း (၂)

## စကားပြေကို လေ့လာသောအခါ

စကားပြေသည် ပြည်သူ့ အသုံးအဆောင်ဖြစ်ကြောင်း ဆိုခဲ့ပါပြီ။ ထိုအသုံးအဆောင်ကို ထက်ထက်မြက်မြက် ထိထိရောက်ရောက် အသုံးချနိုင်ရန် ထိုအသုံးအဆောင်၏ သဘောသဘာဝကို အနီးကပ် လေ့လာကြည့်သင့်ပါသေးသည်။

သို့ဖြစ်လျှင် စကားပြေဟူသည် အဘယ်နည်း။

"စကားပြေဟူသည် စကားပြေ၊ ပြေသော စကား၊ အဖုအထစ် အဟောက် အပိန်အထောင်ကင်းသော စကားကို ဆိုလိုသည်"[၁]

မြန်မာစာပေသမိုင်းတွင် ထင်ရှားသော မြန်မာပညာရှင်တစ်ဦးဖြစ်သူ ဝဇီရဗုဒ္ဓိ ဆရာကြီး ဦးဖိုးစိန်က စကားပြေ၏ အဓိပ္ပာယ်ကို ဤသို့ ဖွင့်ဆိုခဲ့ဖူးပါသည်။ ဤဖွင့်ဆိုချက်နှင့်အညီ "စကားပြေ"ဟူသော ဝေါဟာရကပင် စကားပြေ၏ အဓိပ္ပာယ်ကို ဖော်ပြနေပါသည်။ စကားပြေဟူသည် ပြေပြေပြစ်ပြစ် ဖွဲ့စည်းထားသော "စကား"ပင် ဖြစ်သည်။ "စကား"ဟူရာ၌ လူတို့၏နှုတ်မှ ပြောဆိုသော စကားသံများကို အခြေခံအားဖြင့် ဆိုလိုပါ

---

၁။ ဦးဖိုးစိန်။ မြန်မာကဗျာဖွဲ့နည်းကျမ်း၊ ပထမ အုပ်။ စာ၊ ၁၁။

သည်။ ထို "စကား" ဖွဲ့ထုံးစည်းကမ်းနှင့်အညီ ပြေပြေပြစ်ပြစ် စီစဉ်ပြီး ပြောဆိုလျှင် "အပြောစကားပြေ" ဖြစ်လာပါသည်။ သာဓကပြရလျှင် တာဝန်ရှိပုဂ္ဂိုလ်တို့ မိန့်ကြားသော မိန့်ခွန်းများ၊ ဟောပြောချက်များ၊ ရုပ်ရှင်ပြဇာတ်ထဲတွင် သရုပ်ဆောင်သူတို့ အချီအချပြောကြဆိုကြသော စကားများ၊ ဝတ္ထုထဲတွင် ဇာတ်ဆောင်တို့ အချီအချပြောကြ ဆိုကြသော စကားများသည် မပြောမီ ပြေပြေပြစ်ပြစ် ဖြစ်အောင် ကြိုတင်စီစဉ်ထားပြီးမှ ပြောရသော "အပြော" စကားပြေများ ဖြစ်ပါသည်။ ထို့အတူ စကားကို ဖွဲ့ထုံးစည်းကမ်းနှင့်အညီ ပြေပြေပြစ်ပြစ် စီစဉ်ပြီး ရေးသားလျှင် "အရေး စကားပြေ"ဖြစ်လာပါသည်။ သာဓကပြရလျှင် ယခုစာရှုသူ ဖတ်နေသော ဤစာအုပ်ကစပြီး နေ့စဉ် တွေ့မြင်ဖတ်ရှုနေကြရသော ကဗျာမဟုတ်သော စာမှန်သမျှ အရေးစကားပြေချည်း ဖြစ်ပါသည်။

စကားပြေတွင် ဖွဲ့ထုံးစည်းကမ်းနှင့်အညီ စီစဉ်ခြင်းဆိုသည်မှာ သဒ္ဒါစည်းကမ်း၊ ဝါကျဖွဲ့ထုံးစည်းကမ်းတို့နှင့် ညီညွတ်ခြင်းကို ဆိုလိုပါသည်။ သဒ္ဒါမှန်ကန်လျှင်၊ ဝါကျဖွဲ့ထုံးမှန်ကန်လျှင် စကားပြေ ဖြစ်ပါပြီ။ စကားပြေသည် ကဗျာမဟုတ်သဖြင့် ကဗျာကဲ့သို့ ကာရန်ပါစရာလည်း မလိုပေ။ မည်သည့်ဝါကျမျိုးတွင် စကားလုံးအရေအတွက် မည်၍မည်မျှ ပါရမည် ဟူသော ကန့်သတ်ချက်မျိုးလည်း မရှိပေ။ မည်သည့်နေရာတွင် မည်သည့် အသံမျိုးကို ထည့်ရမည်ဟူသော ကန့်သတ်ချက်မျိုးလည်း မရှိပါ။ ဖွဲ့ထုံး စည်းကမ်းသာ မှန်ကန်ပါစေ။ လွတ်လွတ်လပ်လပ် ရေးနိုင်သည့်စာမျိုး ဖြစ်ပါသည်။ ထို့ကြောင့် ပြည်သူတို့ လွတ်လွတ်လပ်လပ် ကျယ်ကျယ်ပြန့်ပြန့် ရေးသားအသုံးပြုနိုင်သော အသုံးအဆောင်အဖြစ် ရပ်တည်နေနိုင်ခြင်း ဖြစ်ပါသည်။

ကောင်းပါပြီ။ စကားပြေ၏ အဓိပ္ပာယ်ကို စူးစမ်းပြီးနောက် စကားပြေ၏ သဘောသဘာဝကို ဆက်လက်စူးစမ်း ကြည့်သင့်ပါသေးသည်။ စကားပြေ၏ သဘောသဘောဝသည် မည်သို့ရှိသနည်း။

စကားပြေသည် မည်သည့်အကြောင်းအရာကိုမဆို ရေးသားဖော်ပြနိုင်သော အသုံးအဆောင် ဖြစ်ပါသည်။ ထို့ကြောင့် စကားပြေရေးမည့်သူတွင် ရေးစရာအကြောင်းအရာ တစ်ခုခုရှိစမြဲ ဖြစ်ပါသည်။ ထိုအကြောင်းအရာသည် သူ့အကြောင်း၊ သူ့မိသားစုအကြောင်း၊ သူ့မြို့ရွာအကြောင်း၊ သူ့နိုင်ငံအကြောင်း စသည် စသည်ဖြင့် တစ်ခုမဟုတ်တစ်ခု ဖြစ်ပါလိမ့်မည်။ ထိုအကြောင်းအရာပေါင်း များစွာထဲမှ သူရေးချင်သည့် အကြောင်းအရာ တစ်ခုခုကို စကားပြေဖြင့် သူရေးမည် ဖြစ်သည်။ ထိုသို့ရေးရာတွင် သူရည်ရွယ်သော စာဖတ်သူတစ်ဦးအတွက် သော်လည်းကောင်း၊ အများအတွက်သော်လည်းကောင်း ရှိပါလိမ့်မည်။ သူ့စာသည် သူငယ်ချင်းထံပေးစာဖြစ်လျှင် သူရည်ရွယ်သော စာဖတ်သူသည် သူငယ်ချင်းတစ်ဦးသာ ဖြစ်ပါလိမ့်မည်။ သူ့စာသည် ဆောင်းပါးဝတ္ထု တစ်ခုခုဖြစ်လျှင်မူ သူရည်ရွယ်သော စာဖတ်သူသည် မည်သူမည်ဝါဟု မရည်ညွှန်းသော စာဖတ်သူများ ဖြစ်ပါလိမ့်မည်။

ထိုစာဖတ်သူတို့သည် သူ့စာကိုဖတ်ပြီး ဗဟုသုတ ရသွားပါစေ၊ စိတ်ထဲတွင် ပျော်ရွှင်ကြည်နူးသွားပါစေ၊ ချစ်ခင်မြတ်နိုးသွားပါစေ၊ တက်ကြွအားရသွားပါစေ စသည်စသည်ဖြင့် စကားပြေရေးသူတွင် ရည်ရွယ်ချက်တစ်ခုခုလည်း ရှိမြဲဖြစ်ပါသည်။ သူသည် သူရည်ရွယ်သည့်အတိုင်း စာဖတ်သူအတွက် အကျိုးသက်ရောက်သွားအောင် သူရေးချင်သော အကြောင်းအရာများကို စာဖတ်သူထံ စကားပြေဖြင့် ပို့ဆောင်ပေးခြင်း ဖြစ်ပါသည်။

ထိုသို့ ပို့ဆောင်ပေးရာ၌ စကားလုံးကလေးများကို ဝါကျဖြစ်အောင် ဖွဲ့ရသည်။ ဝါကျများကို အကြောင်းအရာအလိုက် ဆိုလိုချက်တစ်ချက်လျှင် စာပိုဒ်တစ်ပိုဒ် ခွဲကာ စာပိုဒ်ဖြစ်အောင် ဖွဲ့ရသည်။ စာပိုဒ်များကိုလည်း တစ်ပိုဒ်နှစ်တစ်ပိုဒ် ချိတ်ဆက်ကာ စာတစ်ပုဒ်လုံးဖြစ်အောင် ဖွဲ့ရသည်။ သူ့စကားပြေသည် တိုသည်ဖြစ်စေ၊ ရှည်သည်ဖြစ်စေ စကားများ၊ ဝါကျများ၊ စာပိုဒ်များ ပါဝင်မည် ဖြစ်ပါသည်။

စကားပြေရေးသူသည် စကားသုံးနှုန်းရာ၌ လည်းကောင်း၊ ဝါကျဖွဲ့ရာ၌ လည်းကောင်း၊ စာပိုဒ်ဖွဲ့ရာ၌ လည်းကောင်း၊ စာတစ်ပုဒ်လုံး ဖွဲ့ရာ၌လည်းကောင်း သူဆိုလိုချက်ကို စာဖတ်သူ မိမိရရ သဘောပေါက်အောင်၊ သူရည်ရွယ်သလို စာဖတ်သူအတွက် အကျိုးသက်ရောက်သွားအောင် ရေးဖွဲ့နိုင်သည်ဆိုလျှင် သူ့စကားပြေကို စကားပြေကောင်းဟု ခေါ်ရမည် ဖြစ်ပါသည်။ တစ်နည်းဆိုလျှင် သူသည် စကားပြေဟူသော အသုံးအဆောင်ကို ထက်ထက်မြက်မြက် ထိထိရောက်ရောက် အသုံးပြုနိုင်စွမ်းရှိသူ ဖြစ်သည်ဟု အသိအမှတ်ပြုရမည် ဖြစ်သည်။

သို့ဖြစ်လျှင် "စကားပြေကောင်း" ဖြစ်အောင် မည်သို့ ရေးသင့်သနည်း။ တစ်နည်းဆိုရလျှင် စကားပြေဟူသော အသုံးအဆောင်ကို ထက်မြက်ထိရောက်အောင် မည်သို့ အသုံးပြုသင့်သနည်း။ ဆက်လက်စူးစမ်းကြည့်သင့်ပါသည်။



## အခန်း (၃)

## စကားပြေကိုထိရောက်စွာ အသုံးပြုရေး

စကားပြေရေးရာတွင် မည်သို့ မည်ပုံရေးမှ "စကားပြေကောင်း" ဖြစ်မည်နည်း။ တစ်နည်းဆိုရလျှင် စကားပြေဟူသော အသုံးအဆောင်ကို မည်ကဲ့သို့ အသုံးပြုမှ ထက်မြက်ထိရောက်စွာ အသုံးပြုရာ ရောက်မည်နည်း။

ဤမေးခွန်းများကို ဖြေရန်အတွက် "စကားပြေကောင်း"၏ သဘောကို စူးစမ်းကြည့်သင့်ပါသည်။ စကားပြေကောင်းဟူသည် အဘယ်နည်း။ စကားပြေကောင်းတွင် မည်သို့သော အင်္ဂါလက္ခဏာများ ပါဝင်သနည်း။

ဤနေရာတွင် စာရေးခြင်းနှင့် ပတ်သက်သည့် ဆရာကြီး သခင်ဘသောင်း၏ အဆိုအမိန့်တစ်ရပ်ကို တင်ပြလိုပါသည်။ ဆရာကြီးက-

> စာရေးသည့်အလုပ်သည် ပကတိအားဖြင့် ခက်သောအလုပ်ဖြစ်သည့်အပြင် ရိုးရိုးရပ်သူရွာသား လူထုများ ဖတ်၍ လွယ်ကူစွာ နားလည်နိုင်အောင် ရေးရသော အလုပ်မှာ ပို၍ခက်လှပါသည်[၁]

ဟု မိန့်ဆိုဖူးပါသည်။

---

၁။ သခင်ဘသောင်း။ သိပ္ပံဝတ္ထုရေးနည်း၊ လူထုအတွက် သိပ္ပံစာပေ။ စာ၊ ၁၂၈။

စကားပြေကောင်းဆိုသည်မှာလည်း ဆရာကြီးမိန့်ဆိုသကဲ့သို့ပင် “ရိုးရိုးရပ်သူရွာသား လူထုများဖတ်၍ လွယ်ကူစွာ နားလည်နိုင်” သော စကားပြေမျိုး ဖြစ်သင့်ပါသည်။ သို့မှလည်း အစွမ်းအာနိသင် ထက်မြက် ထိရောက်ပါလိမ့်မည်။ ပြည်သူထဲသို့ ကျယ်ကျယ်ပြန့်ပြန့် ရောက်နိုင် ပါလိမ့်မည်။

ထိုစကားပြေမျိုး ရေးရသည့်အလုပ်ကား ဆရာကြီးမိန့်ဆိုသကဲ့သို့ပင် ခက်ခဲသော အလုပ်ဖြစ်ပါသည်။ သို့သော် စာရေးခြင်းဆိုသည်မှာ ဖတ်ဖို့ ရေးခြင်းဖြစ်သည့်အလျောက် စာရေးသူတို့သည် ထို “ခက်ခဲသောအလုပ်” ကိုပင် ကြိုးစားဆောင်ရွက်ကာ မိမိတို့ ဆိုလိုချက်ကို စာဖတ်သူတို့ နားလည်အောင် ရေးသားနေကြခြင်း ဖြစ်ပါသည်။ ထိုသို့ရေးသားရာ၌ အောက်တွင် ဆွေးနွေးမည့် လက္ခဏာများနှင့် ညီညွတ် အောင်ရေးနိုင်လျှင် စကားပြေကို ပြည်သူထဲသို့ ကျယ်ကျယ်ပြန့်ပြန့် ရောက်ရှိအောင် ကြိုးပမ်းရာ၌ ထက်မြက်ထိရောက်စွာ အသုံးပြုနိုင်ပြီဟု ဆိုနိုင်လောက်ပါသည်။

စကားပြေတွင် အခြေခံအားဖြင့် မရှိမဖြစ် လိုအပ်သော လက္ခဏာ ကား “မှန်ကန်မှု” ပင် ဖြစ်သည်။ မှန်ကန်ရာ၌ စကားအသုံးအနှုန်း၊ သဒ္ဒါ၊ ဝါကျဖွဲ့သုံးမှန်ကန်မှုတို့ကို ဆိုလိုပါသည်။ စာရေးသူက စကားသုံး မှန်မှန်၊ သဒ္ဒါမှန်မှန်၊ ဝါကျဖွဲ့ထုံးမှန်မှန် ရေးပြမှလည်း သူဆိုလိုသည့်အတိုင်း စာဖတ်သူက မှန်မှန်ကန်ကန် နားလည်နိုင်ပါလိမ့်မည်။

ကောင်းပါပြီ။ မှန်ကန်မှုရှိရုံနှင့် စကားပြေကောင်းဖြစ်ပြီလော။ မဖြစ်သေးပါ။ အသုံးအနှုန်း ဖွဲ့ထုံးစည်းကမ်းမှန်ပင် မှန်သော်လည်း ရေးသားပုံ ရှုပ်ထွေးနေလျှင် “ဘာဆိုပါလိမ့်” ဟု ခေါင်းကုတ်စဉ်းစားနေရပါ လိမ့်မည်။ တစ်ခေါက်ဖတ်ရုံနှင့် ရှင်းလင်းပြတ်သားစွာ နားလည်သွားမှသာ အကျိုးရှိပါလိမ့်မည်။ ထို့ကြောင့် “ရှင်းလင်းမှု” သည်လည်း လိုအပ်သော

လက္ခဏာတစ်ရပ် ဖြစ်ပါသည်။

ရှင်းလင်းမှုလည်း ရှိပါပြီ။ ဘာလိုသေးသနည်း။ တစ်ခါတစ်ခါတွင် စာရေးပုံတစ်ချက်ကလေး လိုသွားသည့်အတွက် ဆိုလိုချင်သည့် အဓိပ္ပာယ် အတိုင်း တိတိကျကျဖြစ်မလာဘဲ ပွတ်ကာသီကာ တိမ်းယိမ်းသွားတတ်သည့် အဖြစ်မျိုးလည်း ရှိတတ်ပါသေးသည်။ စာရေးသူက နားလည်စေချင်သလို စာဖတ်သူက တသဝေမတိမ်း တိတိကျကျ နားလည်မှသာ အကျိုးရှိပါ လိမ့်မည်။ ထို့ကြောင့် "တိကျမှု" သည်လည်း လိုအပ်သော လက္ခဏာတစ်ရပ် ဖြစ်ပါသည်။

တိကျမှုလည်း ရှိပါပြီ။ သို့သော် ကျန်ပါသေးသည်။ စာရေးသူက သူရေးချင်သည့်အချက်ကို အချိန်တိုတိုအတွင် လိုရင်းရောက်အောင် ကျစ်ကျစ်လျစ်လျစ် ရေးနိုင်လျှင် စာရေးသူရော၊ စာဖတ်သူပါ အချိန်ကုန် သက်သာပြီး အကျိုးရှိပါသည်။ ထို့ကြောင့် "ကျစ်လျစ်မှု" သည်လည်း လိုအပ်သော လက္ခဏာတစ်ရပ် ဖြစ်ပါသည်။

စာရေးသူသည် သူဆိုလိုချက်ကို စာဖတ်သူ၏ စိတ်ထဲသို့ ရောက်အောင် ပို့ပေးရာတွင် အထစ်အငေါ့မရှိဘဲ ချောချောမွေ့မွေ့ ပြေပြေပြစ်ပြစ် ရောက်သွားဖို့လည်း လိုပါသေးသည်။ ထို့ကြောင့် "ပြေပြစ်မှု" သည်လည်း လိုအပ်သော လက္ခဏာတစ်ရပ် ဖြစ်ပါသည်။

တစ်ခု ကျန်ပါသေးသည်။ စာရေးသူသည် မည်သည့် အကြောင်း အရာများကို ရေးချင်ပါသနည်း။ သူ့အကြောင်းအရာသည် လေးလေးပင်ပင် အကြောင်းအရာမျိုးလော၊ ပေါ့ပေါ့ပါးပါး အကြောင်းအရာမျိုးလော။ မည်သို့သော စာဖတ်သူမျိုးအတွက် ရည်ရွယ်ပါသနည်း။ သာမာန်လူမျိုးများ အတွက်လော၊ ပညာရှင်များအတွက်လော။ မည်သည့်ရည်ရွယ်ချက်ဖြင့် ရေးချင်ပါသနည်း။ စာဖတ်သူ၏ စိတ်ထဲတွင် ပျော်ရွှင်မှု၊ တက်ကြွမှု၊

အံ့သြမှု စသည့် စေတနာတစ်ခုခု နိုးကြားလာစေချင်သည့် ရည်ရွယ်ချက်လော။ ဤသို့ဖြင့် သူ့ စကားပြေအရေးအသားသည် သူရေးသည့်အကြောင်းအရာ၊ သူရည်ရွယ်သည့် စာဖတ်ပရိသတ်၊ သူထားရှိသည့် ရည်ရွယ်ချက်စသည့် အခြေအနေရပ်ရပ်နှင့် လိုက်လျောညီထွေသော အရေးအသားမျိုးဖြစ်ရန်လိုအပ်ပါသည်။ ထို့ကြောင့် "လိုက်ဖက်မှု" သည်လည်း လိုအပ်သောလက္ခဏာတစ်ရပ် ဖြစ်ပါသည်။

ဤသို့ဖြင့် စကားပြေကောင်းဟု သတ်မှတ်သင့်သော စကားပြေမျိုးသည် ခြေခံအားဖြင့် (၁) မှန်ကန်မှု၊ (၂) ရှင်းလင်းမှု၊ (၃) တိကျမှု၊ (၄) ကျစ်လျစ်မှု၊ (၅) ပြေပြစ်မှု၊ (၆) လိုက်ဖက်မှု ဟူသော လက္ခဏာများနှင့် ညီညွတ်ရန် လိုအပ်သည်။ ထိုလက္ခဏာများနှင့် ညီညွတ်အောင် ရေးနိုင်လျှင် စကားပြေကောင်း ဖြစ်ပါပြီ။ စကားပြေကို ထက်မြက်ထိရောက်စွာ အသုံးပြုနိုင်ပါပြီ။

သို့ဖြစ်လျှင် ထိုလက္ခဏာများနှင့် ညီညွတ်အောင် မည်သို့ ရေးသင့်သနည်း။ မည်သည့်အချက်များကို ဂရုပြုသင့်သနည်း။ ဂရုပြုသင့်သည့် အချက်များကို လက္ခဏာတစ်ခုချင်း အလိုက် တစ်ကန့်စီခွဲကာ ဆက်လက်တင်ပြသွားပါမည်။



## အခန်း (၄)

## မှန်မှန်ကန်ကန်

စာရေးသူတို့သည် စကားပြေရေးပြီဆိုကတည်းက စကားအသုံးအနှုန်းမှန်အောင်၊ သဒ္ဒါမှန်အောင်၊ ဝါကျဖွဲ့ထုံးမှန်အောင် ကြိုးစား၍ ရေးမြဲဖြစ်ပါသည်။ စာဖတ်သူတို့သည် ဖတ်နေသော စကားပြေထဲမှ စကားအသုံးအနှုန်းများ ဝါကျများသည် သဒ္ဒါစည်းကမ်း ဝါကျဖွဲ့ထုံး စည်းကမ်းတို့နှင့် ညီညွတ်မှန်ကန်ပြီးသား ဖြစ်သည်ဟု ယုံကြည်ထားမြဲ ဖြစ်ပါသည်။ သို့ဖြင့် မှန်ကန်မှုသည် စကားပြေ အဖွဲ့တစ်ခုအဖြစ် ပုံပေါ်ပြီဆိုကတည်းက တပါးတည်း ပြည့်စုံပြီးစားဖြစ်သော အခြေခံ လက္ခဏာ ဖြစ်သည်ဟု မျှော်လင့်နိုင်ပါသည်။

သို့သော်လည်း စာရေးသူတို့ ကြိုးစားရေးသည့်အထဲက စကားအသုံးအနှုန်းမှားမှု၊ သဒ္ဒါမှားမှု၊ ဝါကျဖွဲ့ထုံးမှားမှုများ ဖြစ်တတ်ပါသေးသည်။ ထိုအခါတွင် ဆိုလိုသည်ကတစ်မျိုး အဓိပ္ပာယ်သက်ရောက်သည်ကတခြား ဖြစ်သွားတတ်ပါသည်။

သဒ္ဒါမှန်အောင်၊ ဝါကျဖွဲ့ထုံးမှန်အောင် မည်သို့ရေးရမည်၊ မည်သည့် အချက်များကို ဂရုပြုမည်ဆိုသည်တို့ကို သဒ္ဒါကျမ်း၊ ဝါကျဖွဲ့ထုံးကျမ်း

တို့တွင် အကျယ်ဖော်ပြထားလေ့ရှိပါသည်။ ဤစာအုပ်တွင်မူ သဒ္ဒါနည်း၊ ဝါကျဖွဲ့နည်းများကို အကျယ်မပြထားပါ။ မိမိဆိုလိုချက်ကို မှန်မှန်ကန်ကန် ဖော်ပြနိုင်ရန်အတွက် ဂရုပြုသင့်သည်ဟု ယူဆသော အချက်အချို့ကိုသာ တင်ပြလိုပါသည်။ တင်ပြရာတွင် မှားတတ်သော စကားသုံးများနှင့် ဝါကျဖွဲ့ထုံးများကို သာဓကများဖြင့် တင်ပြသွားပါမည်။

## (က) အရေးမှား အသုံးမှားစကားများ

အမှတ်မထင် ရေးမိသုံးမိရာမှ အရေးမှား အသုံးမှား ဖြစ်သွားတတ်သော စကားများရှိပါသည်။ ယင်းတို့ကို ဂရုပြု၍ ရေးမည် သုံးမည်ဆိုပါက အရေးမှန် အသုံးမှန်သွားပါလိမ့်မည်။

အချို့မှာ အသံထွက်သည့်အတိုင်း လိုက်ရေးမိရာက အရေးမှားသွားတတ်ခြင်း ဖြစ်ပါသည်။ သာဓကပြရလျှင် "မကြာမီ" ဟု ရေးသော်လည်း "မကြာမှီ" ဟု ဟထိုးထည့်၍ အသံထွက်လေ့ရှိကြပါသည်။ ဟ ထိုးသံမထည့်ဘဲ အသံထွက်ခြင်းထက် ဟ ထိုးသံထည့်ပြီး အသံထွက်ခြင်းက ပို၍ ရွတ်ရဆိုရလွယ်သောကြောင့် ဖြစ်ပါသည်။ ထိုအသံထွက်ပုံအတိုင်း မကြာမှီဟု ရေးလိုက်သောအခါ အရေးမှားဖြစ်သွားရပါသည်။ ထို့အတူ "မုသား" ကို "မှုသား"၊ "မင်" ကို "မှင်"၊ "မြား" ကို "မြှား"၊ "သွားလျက် လာလျက်" ကို "သွားလျှက် လာလျှက်"၊ "လျင်မြန်" ကို "လျှင်မြန်" ဟု မှားရေးတတ်ခြင်းမှာ အသံထွက်ပုံကို လိုက်၍ မှားရေးမိတတ်ခြင်း ဖြစ်ပါသည်။

မှားယွင်းရွတ်ဆိုရာမိရာက အသုံးတွင်သွားပြီး အရေးပါမှားသွားတတ်သော စကားမျိုးလည်း ရှိပါသည်။ သာဓကပြရလျှင် "ထောမနာ" ဟူသော ပါဠိစကားသည် ချီးမွမ်းခြင်းဟု အဓိပ္ပာယ်ရပါသည်။ သို့သော်

ထောမနာကို "ထောပနာ" ဟု မှားယွင်းရွတ်ဆိုမိရာ အသုံးတွင်သွားပြီး "ချီးမွမ်းထောပနာ" ဟု အများသုံးနေကြပါသည်။ 'ချီးမွမ်းထောမနာ' ဟု သုံးမှ မှန်ပါလိမ့်မည်။

ထို့အတူ "အနမတဂ္ဂ" ဟူသော ပါဠိစကားသည် 'အစ မရှိသော အစကို မသိနိုင်သော' ဟု အဓိပ္ပာယ်ရပါသည်။ ဤသံသရာကြီး၏ အစကို မသိနိုင်သဖြင့် "အနမတဂ္ဂ သံသရာ" ဟု သုံးလေ့ရှိကြပါသည်။ မရေတွက်နိုင်အောင် များပြားသည်ဟူသော အဓိပ္ပာယ်ဖြင့် သုံးကြပါသေးသည်။ ပေါ့ပေါ့နေ ပေါ့ပေါ့စားသူများ အနမတဂ္ဂရှိလေသည်ဟူသော အသုံးမျိုး ဖြစ်သည်။ သို့သော် "အနမတဂ္ဂ" ကို "အနတက္ကမ" ဟု မှားယွင်းရွတ်ဆို မိရာက 'ဒီလိုလူတွေ အနတက္ကမပဲ" ဟူသော အသုံးမျိုးကို အချို့ သုံးနေကြပါသည်။ အနမတဂ္ဂဟု သုံးမှ မှန်ပါလိမ့်မည်။

ရေးပုံချင်းနီးစပ်သောစကားမျိုးကြောင့် ယောင်မှားသုံးမိတတ်သော စကားမျိုးလည်း ရှိပါသည်။ "ကတိ" (ဝန်ခံချက်၊ သဘောတူညီချက်၊ အချိန်းအချက်စကား) နှင့် "ဂတိ" (လားရာ၊ သတ္တဝါတို့ သေပြီးနောက် အချိန်းအချက်နေရာ) တို့သည် ရေးပုံချင်းနီးစပ်သော ပါဠိစကားနှစ်လုံး ဖြစ်ပါသည်။ ဆင်တူယိုးမှားဖြစ်သည့်အပြင် "ကတိ" ကိုလည်း "ဂတိ"ဟုပင် အသံထွက်သည့်အတွက် "ဂတိပြု၊ ဂတိပေး" ဟု ယောင်မှား သုံးမိ တတ်ကြပါသည်။ "ကတိပြု၊ ကတိပေး" ဟု သုံးမှ မှန်ပါလိမ့်မည်။

ထို့အတူ "ကရုဏာ" (သနားခြင်း) နှင့် ဂရု (အလေးထားခြင်း) တို့သည်လည်း ရေးပုံချင်း နီးစပ်သော ပါဠိစကားနှစ်လုံး ဖြစ်ပါသည်။ "ကရုဏာ" ကို "ဂရုဏာ" ဟု အသံ ထွက်သည့်အပြင် ဆင်တူယိုးမှား ဖြစ်သော "ဂရု" (ဂရုစိုက်၊ ဂရုပြု) ကလည်း ရှိနေသဖြင့် "ဂရုဏာ" ဟု ယောင်မှားသုံးမိတတ်ကြပါသည်။ "ကရုဏာ" ဟု သုံးမှ မှန်ပါလိမ့်မည်။

အဓိပ္ပယ်အရ နီးစပ်မှုရှိသည်ကိုလိုက်၍ အသုံးမှားတတ်သော စကာမျိုးလည်း ရှိပါသည်။ "အဓိဋ္ဌာန်" သည် "အဓိဋ္ဌာန" ဟူသော ပါဠိစားမှ ဆင်းသက်၍ "စိတ်၌ စွဲမြဲစွာ ပြဋ္ဌာန်းသတ်မှန်ခြင်း၊ ဆောက်တည်ခြင်း' ဟု အဓိပ္ပာယ်ရပါသည်။ "သန္နိဋ္ဌာန်" သည် "သန္နိဋ္ဌာန" ဟူသော ပါဠိစကားမှဆင်းသက်လာ၍'စိတ်ဆုံးဖြတ်ခြင်း၊စိတ်ပိုင်းဖြတ်ခြင်း'ဟု အဓိပ္ပာယ်ရပါသည်။ "သန္နိဋ္ဌာန်ပြုသည်"၊ သန္နိဋ္ဌာန်ချသည်" ဟု သုံးလေ့ရှိပါသည်။ "သန္နိဋ္ဌာန်" ကို "အဓိဋ္ဌာန်" နှင့်ရောပြီး "သံဓိဋ္ဌာန်"ဟု မှားသုံးတတ်ကြပါသည်။ "သန္နိဋ္ဌာန်" ဟု သုံးမှ မှန်ပါလိမ့်မည်။

## (ခ) သဒ္ဒါသုံး အမှားများ

ယနေ့ အများအသုံးတွင်နေသော သဒ္ဒါသုံးအမှားတစ်ခုမှာ "ဟူသော" ဟု သုံးရမည့်နေရာတွင် "စသော" ကို မှားသုံးခြင်းပင် ဖြစ်သည်။

'စသော' သည် တစ်ချို့တစ်ဝက်သာ ဖော်ပြလိုသော အချက်များ၏ နောက်တွင် သုံးရသော စကားဆက်ဖြစ်ပါသည်။ "စသည်၊ စသည်ဖြင့်၊ စသည်တို့" မှာလည်း စသောနှင့် သဘောချင်းတူသော စကားဆက်များ ဖြစ်ပါသည်။ ယခုဖော်ပြထားချက်များမှာ အပြည့်အစုံမဟုတ်သေးပါ။ နောက်ထပ်ကျန်ပါသေးသည်ဟူသော အဓိပ္ပာယ်ဖြင့် သုံးခြင်းဖြစ်ပါသည်။ သာဓကပြပါမည်။

လုပ်သားပြည်သူနေ့စဉ်၊ ကြေးမုံ စသော မြန်မာသတင်းစာများ တွင် ဆုပေးပွဲသတင်းကို တွေ့နိုင်ပါသည်။

ဤဝါကျကို ကြည့်လျှင် လုပ်သားပြည်သူနေ့စဉ်နှင့် ကြေးမုံ သတင်းစာ နှစ်စောင်၏အမည်ကိုသာ ဖော်ပြပြီး 'စသော' ဟု သုံးလိုက်သဖြင့် 'မြန်မာ့အလင်း၊ ဗိုလ်တထောင်' ဟူသော ကျန်မြန်မာသတင်းစာများကိုပါ

ရည်ညွှန်းလိုကြောင်း သိနိုင်ပါသည်။ သတင်းစာအမည်ကိုပါ ရည်ညွှန်းလိုကြောင်း 'စသော' က ဖော်ပြနေပါသည်။ အပြည့်အစုံဖော်ပြလိုလျှင်-

လုပ်သားပြည်သူ့နေ့စဉ်၊ ကြေးမုံ၊ မြန်မာ့အလင်း၊ ဗိုလ်တထောင် ဟူသော မြန်မာသတင်းစာများတွင် ဆုပေးပွဲသတင်းကို တွေ့နိုင်ပါသည်။

ဟူ၍ "ဟူသော" ထည့်သုံးနိုင်ပါသည်။ ရှေ့ကဖော်ပြသော သတင်းစာအမည်အားလုံး ပြည့်စုံကြောင်း၊ ချန်မထားကြောင်း "ဟူသော"က ဖော်ပြနေပါသည်။

သို့သော် ဟူသောနေရာ၌ စသောကို ထည့်ပြီး အောက်ပါကဲ့သို့ မှားသုံးနေကြသည်ကို မကြာမကြာ တွေ့ရပါသည်။

လုပ်သားပြည်သူ့နေ့စဉ်၊ ကြေးမုံ၊ မြန်မာ့အလင်း၊ ဗိုလ်တထောင် စသော မြန်မာသတင်းစာများတွင် ဆုပေးပွဲသတင်းကို တွေ့နိုင်ပါသည်။

စဉ်းစားကြည့်ပါ။ ယနေ့ထုတ်ဝေနေသော မြန်မာသတင်းစာ လေးစောင်စလုံး အပြည့်အစုံလည်း ဖော်ပြပြီးပါလျက် 'စသော' ဟု ထည့်လိုက်ပြန်သောအခါ နောက်ထပ် မြန်မာသတင်းစာ ရှိနေသေးသကဲ့သို့ အဓိပ္ပာယ် သက်ရောက်သွားလေသည်။ ထို့အတူ-

အသုံးလုံးဆိုသည်မှာ အရေး၊ အဖတ်၊ အတွက် စသည်တို့ကို ဆိုလိုခြင်းဖြစ်သည်။

ဤကျောင်းတွင် မူလတန်း၊ အလယ်တန်း၊ အဆင့်မြင့်တန်း စသည့် အတန်းအားလုံးကို သင်ကြားပေးနေသည်။

ဟူသော ဝါကျများတွင်လည်း "စသည်၊ စသည်" တို့ အသုံးချများနေပါသည်။ အချက်အလက်အပြည့်အစုံ ဖော်ပြထားပါလျက် 'စသည် စသည်'တို့ကို မလိုဘဲ ထည့်ထားသောကြောင့် ဖြစ်ပါသည်။

အသုံးလုံးဆိုသည်မှာ အရေး၊ အဖတ်၊ အတွက်တို့ကို ဆိုလို ခြင်းဖြစ်သည်။

ဤကျောင်းတွင် မူလတန်း၊ အလယ်တန်း၊ အဆင့်မြင့်တန်း ဟူသည့် အတန်းအားလုံးကို သင်ကြားပေးနေသည်။

ဟု ရေးမှ မှန်ပါလိမ့်မည်။ အချက်အလက်များ အပြည့်အစုံ ဖော်ပြမည်ဆိုလျှင် နောက်က "စသော၊ စသည်၊ စသည့်" တို့ ထည့်စရာ မလိုပါ။ "ဟူသော၊ ဟူသည်၊ ဟူသည့်" တို့ကို လိုအပ်သလို ထည့်သုံးရန်သာ ဖြစ်ပါသည်။

ကနှင့် မှ မှားသုံးသည့် သဒ္ဒါသုံး အမှားမျိုးကိုလည်း မကြာမကြာ တွေ့ရပါသည်။

"ကျောင်းအုပ်ကြီးမှ မိန့်ခွန်းမြွက်ကြာပါတော့မည်။"

"ညွှန်ကြားရေးမှူးမှ ဆုချီးမြှင့်ပါတော့မည်" ဟူသော အသုံးမျိုး ဖြစ်ပါသည်။

ကျောင်းအုပ်ကြီးသည် မိန့်ခွန်းပြောကြားခြင်းကို ပြုလုပ်သူ၊ ညွှန်ကြားရေးမှူးသည် ဆုချီးမြှင့်ခြင်းကို ပြုလုပ်သူ ဖြစ်ပါသည်။ ပြုလုပ်သူကို ဖော်ပြရာတွင် 'မှ' မသုံးဘဲ 'က' သာ သုံးသင့်ကြောင်း၊ သဒ္ဒါကျမ်းများတွင် ပြလေ့ရှိပါသည်။ 'ကျောင်းအုပ်ကြီးက မိန့်ခွန်းမြွက်ကြားပါတော့မည်။ ညွှန်ကြားရေးမှူးက ဆုချီးမြှင့်ပါတော့မည်'ဟု သုံးမှသာ အသုံးမှန်ပါလိမ့်မည်။

က နေရာတွင် မှ ကို သုံးမိသည့်အတွက် တစ်ခါတစ်ရံတွင် အဓိပ္ပာယ် ပြောင်းပြန်စောက်ထိုး ဖြစ်သွားတတ်ပါသည်။ အောက်ပါ ဝါကျနှစ်ကြောင်းကို ကြည့်ပါ။

သမဝါယမအသင်းက ဝယ်ယူထားသော လူသုံးကုန်များကို ထပ်ဆင့်ဖြန့်ဖြူးပေးမည်။

သမဝါယမအသင်းမှ ဝယ်ထားသော လူသုံးကုန်များကို ထပ်ဆင့် ဖြန့်ဖြူးပေးမည်။

ဤဝါကျနှစ်ကြောင်းသည် အဓိပ္ပာယ်ချင်း ဆန့်ကျင်ဘက် ဖြစ်သည်။ ပထမဝါကျတွင် သမဝါယမအသင်းသည် လူသုံးကုန်များကို ဝယ်ယူသူလည်း ဖြစ်သည်။ ထပ်ဆင့် ဖြန့်ဖြူးသူလည်း ဖြစ်သည်။ သမဝါယမအသင်းသည် ထိုအလုပ်နှစ်ခုစလုံး လုပ်ကြောင်း **က** နောက်ဆက်က ဖော်ပြနေပါသည်။

ဒုတိယဝါကျတွင်မူ သမဝါယမအသင်းသည် လူသုံးကုန်များကို ရောင်းချသူ ဖြစ်သွားပါသည်။ အခြားပုဂ္ဂိုလ် အဖွဲ့အစည်းတစ်ခုခုက သမဝါယမအသင်းမှ လူသုံးကုန်များကို ဝယ်ယူပြီး ထပ်ဆင့်ဖြန့်ဖြူးသည်ဟု အဓိပ္ပာယ်ရသွားပါသည်။ 'မှ' သည် 'ဈေးမှဝယ်လာသည်" ဟူသကဲ့သို့ ထွက်ခွာရာကို ပြသော နောက်ဆက်ဖြစ်သည့်အတွက် 'သမဝါယမအသင်းမှ ဝယ်ယူထားသော လူသုံးကုန်' ဟု သုံးလိုက်သောအခါ လူသုံးကုန်သည် သမဝါယမအသင်းတွင် မရှိတော့ဘဲ 'ထွက်ခွာ' သွားပြီး အခြားသူတို့ လက်ထဲရောက်သွားရခြင်း ဖြစ်ပါသည်။

ထို့ကြောင့် ပြုလုပ်သူဖြစ်ကြောင်း ဖော်ပြလိုလျှင် 'မှ' ကို မသုံးဘဲ "က" ကို သုံးမှသာ မှန်မှန်ကန်ကန် နားလည်နိုင်ပါလိမ့်မည်။

## (၈) ပုဒ်ထားပြောင်းပြန်ဝါကျ

ခိုးမှုကျူးလွန်သော မောင်စိန်၊ အဖ ဦးမဲ့ကို အလှဖြင့် ထောင်ဒဏ် သုံးလ ကျခံစေရန် အမိန့် ချမှတ်လိုက်သည်။

ဤဝါကျကို အသုံးလုံးကျေပြီးခါစ လယ်သမားဦးကြီးတစ်ယောက်သာ ဖတ်မိမည်ဆိုလျှင် "ဟင်-သားက ခိုးမှုကျူးလွန်တာ ဘာဖြစ်လို့

အဖေက ထောင်ကျရတာလဲ” ဟု တအံ့တသြ မေးကောင်းမေးလိမ့်မည်။ မေးလည်းမေးလောက်စရာပင် ဤဝါကျမျိုးကို အချို့ရေးနေကြရပါသည်။

ခိုးမှုကျူးလွန်သော မောင်စိန် (အဖဦးမဲ့) ကို အလုပ်ဖြင့် ထောင်ဒဏ် သုံးလ ကျခံစေရန် အမိန့်ချမှတ်လိုက်သည်။

ဟု အဖအမည်ကို ကွင်းကလေးထဲ ထည့်ရေးလျှင် တော်ပါသေးသည်။ တရားခံအမည်နောက်တွင် အဖအမည်ထည့်ရသော ရုံးထုံးစံအရ ရေးခြင်းဟု သဘောပေါက်နိုင်စရာရှိပါသည်။ ဤသို့မရေးဘဲ -

ဦးမဲ့၏သား ခိုးမှုကျူးလွန်သော မောင်စိန်ကို အလုပ်ဖြင့် ထောင်ဒဏ် သုံးလကျခံစေရန် အမိန့်ချမှတ်လိုက်သည်။

ဟု ရေးလျှင်မူ ပို၍ရှင်းပါသည်။ ပို၍လည်း မြန်မာဝါကျပီသပါသည်

'မြန်မာဝါကျပီသသည်' ဟု အထူးပြု၍ ဆိုရခြင်းမှာ အထက်ပါ ဝါကျကဲ့သို့ မြန်မာဝါကျမပီသသော မြန်မာမဆန်သော ဝါကျဖွဲ့ပုံမျိုးကို မကြာမကြာ တွေ့ရတတ်သောကြောင့် ဖြစ်ပါသည်။ အောက်ပါတို့ကို ကြည့်ပါ။

- ဦးတင်ထွတ်၊ စက်ရုံမှူး၊ ဂုန်နီစက်ရုံနှင့် ဦးလှဝေ၊ လက်ထောက် အင်ဂျင်နီယာ၊ ချည်မျှင်နှင့်အထည်စက်တို့သည် စက်ရုံလုပ်ငန်းများ ကို သုံးလကြာမျှ လေ့လာရန် ဘီအေစီလေယာဉ်ဖြင့် ဂျပန်နိုင်ငံသို့ ထွက်ခွာသွားကြ၏။
- အခမ်းအနားတွင် သဘာပတိအဖြစ် ဦးမြမောင်၊ ကထိက မြန်မာစာဌာန၊ ရန်ကုန် ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ်က ဆောင်ရွက်ပြီး အခမ်းအနားမှူးအဖြစ် ဦးသိန်းဟန်၊ နည်းပြ၊ မြန်မာစာဌာန လုပ်သားများကောလိပ်က ဆောင်ရွက်သည်။
- ဒေါ်အေး ကုန်သည်၊ အမှတ် ၂၃၊ ကြားတောရလမ်း၊ ဗဟန်း၊

ရန်ကုန်မြို့သည် မန္တလေးမြို့၌ ရုတ်တရက် ကွယ်လွန်သွားပါ၍ မန္တလေးမြို့၌ပင် သင်္ဂြိုဟ်ပြီးစီးပါကြောင်း။

ဤဝါကျမျိုးများကို မကြာမကြာ တွေ့ရတတ်ပါသည်။ မြန်မာဝါကျ ဖွဲ့ထုံးနှင့်မညီသော ဝါကျများ ဖြစ်ပါသည်။

"ဦးတင်ထွတ်၊ စက်ရုံမှူး၊ ဂုန်နီစက်ရုံ" ဟူသော ဖွဲ့ထုံးမျိုးကို စာအိတ်ပေါ်တွင် လိပ်စာအဖြစ်ရေးလျှင် အမည်ကို ချက်ချင်းသိအောင် ရေးခြင်းဖြစ်၍ ဘာမှပြောစရာမရှိပါ။ ဝါကျအဖြစ် စာထဲထည့်ရေးလျှင်မူ မြန်မာဖွဲ့ထုံးမဟုတ်သည့်အတွက် ပြောစရာရှိလာပါသည်။ မြန်မာဖွဲ့ထုံးတွင် ဂုဏ်ထူးဝိသေသကို ဖော်ပြသော အထူးပြုစကားများက ရှေ့ကနေပြီး အထူးပြုခံရသူက နောက်ကလိုက်ရပါသည်။ ထို့ကြောင့် "ဂုန်နီစက်ရုံ၊ စက်ရုံမှူး၊ ဦးတင်ထွတ်" ဟု ဖွဲ့မှသာ မြန်မာဖွဲ့ထုံး ပီသပါလိမ့်မည်။

ရှေ့တွင် ပြခဲ့သော ဝါကျများကို မြန်မာဝါကျဖွဲ့ထုံးနှင့် ကိုက်အောင် အဓိပ္ပာယ်ကောက်ရမည်ဆိုလျှင်-

- ပထမဝါကျတွင် ဂျပန်သို့သွားသူများမှာ ဦးတင်ထွတ်နှင့်ဦးလှဝေတို့ မဟုတ်ဘဲ "ဂုန်နီစက်ရုံနှင့် ချည်မျှင်နှင့်အထည်စက်ရုံ" တို့ဖြစ်သည် ဟု အဓိပ္ပာယ်ကောက်ရပါမည်။
- ဒုတိယဝါကျတွင် သဘာပတိနှင့် အခမ်းအနားမှူးတို့မှာ ဦးမြမောင် နှင့် ဦးသိန်းဟန်တို့မဟုတ်ဘဲ ရန်ကုန်ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ်နှင့် လုပ်သားများကောလိပ်တို့ ဖြစ်သည်ဟု အဓိပ္ပာယ်ကောက်ရပါမည်။
- တတိယဝါကျတွင် ကွယ်လွန်သူမှာ "ဒေါ်အေးမဟုတ်ဘဲ" "ရန်ကုန်မြို့" ဖြစ်သည်ဟု အဓိပ္ပာယ်ကောက်ရပါမည်။

မြန်မာဝါကျဖွဲ့ထုံးအတိုင်း အဓိပ္ပာယ် မှန်မှန်ကန်ကန်ပေါ်ထွက် အောင် ထိုဝါကျများကို အောက်ပါအတိုင်း ဖွဲ့ရပါလိမ့်မည်။

ဂုန်နီစက်ရုံ၊ စက်ရုံမှူးဦးတင်ထွတ်နှင့် ချည်မျှင်နှင့်အထည်စက်
လက်ထောက်အင်ဂျင်နီယာ ဦးလှဝေတို့သည် စက်ရုံလုပ်ငန်းများကို
သုံးလကြာမျှ လေ့လာရန် ဘီအေစီလေယာဉ်ဖြင့် ဂျပန်နိုင်ငံသို့
ထွက်ခွာသွားကြ၏။

အခမ်းအနားတွင် သဘာပတိအဖြစ် ရန်ကုန်ဝိဇ္ဇာနှင့် သိပ္ပံ
တက္ကသိုလ် မြန်မာစာဌာန ကထိက ဦးမြမောင်က ဆောင်ရွက်ပြီး
အခမ်းအနားမှူးအဖြစ် လုပ်သားများကောလိပ် မြန်မာစာဌာန
နည်းပြ ဦးသိန်းဟန်က ဆောင်ရွက်သည်။

ရန်ကုန်မြို့၊ ဗဟန်ကြားတောရလမ်း၊ အိမ်အမှတ် ၂၃ နေ
ကုန်သည် ဒေါ်အေးသည် မန္တလေးမြို့၌ ရုတ်တရက် ကွယ်လွန်သွား
ပါ၍ မန္တလေးမြို့၌ပင် သင်္ဂြိုလ်ပြီးစီးပါကြောင်း။

ဤသို့ဖြင့် ဂုဏ်ထူးဝိသေသကိုဖော်ပြသော အထူးပြုစကားများကို လေ့လာထားပြီး အထူးပြုခံရသူကို နောက်ကထားမှသာ ပုဒ်ထားပြောင်းပြန် မဖြစ်ဘဲ မြန်မာဝါကျဖွဲ့ထုံးနှင့် ညီညွတ်မည်ဖြစ်ကြောင်း ဂရုပြုသင့်ပါသည်။

## (ဃ) အစီအစဉ်ပျက်ဝါကျ

ပါဝင်သောအချက်များကို ရှေ့နောက်ကို အစီအစဉ်အတိုင်း ဖော်ပြရန်လိုအပ်သည့် ဝါကျမျိုးတွင် အစီအစဉ်မှန်ဖို့ အရေးကြီးသည်။ အစီအစဉ်မတည့်ပါက အဓိပ္ပာယ်ပါ တစ်မျိုးတစ်ဖုံ ဖြစ်သွားတတ်ပါသည်။ သာဓကပြပါမည်။

စစ်တွေမြို့၊ မော်လမြိုင်၊ မြစ်ကြီးနား၊ လွယ်ကော်မြို့
တို့သည် မွန်ပြည်နယ်၊ ကချင်ပြည်နယ်၊ ကယားပြည်နယ်၊
ရခိုင်ပြည်နယ်တို့တွင် အသီးသီးရှိကြ၏။

ကျောင်းဆရာများ၊ ကုန်သည်များ၊ လယ်သမားများသည် စိုက်ပျိုးခြင်း၊ စာသင်ကြားခြင်း၊ ရောင်းဝယ်ခြင်း လုပ်ငန်းများကို အသီးသီး လုပ်ကိုင်ကြရမြဲ ဖြစ်သည်။

ဝါကျရှေ့ပိုင်းရှိ အချက်များနှင့် နောက်ပိုင်းရှိ အချက်များကို အစဉ်အတိုင်း မဖော်ပြသဖြင့် အဓိပ္ပာယ်ပျက်သွားကြောင်း တွေ့ရှိနိုင်သည်။ ထိုဝါကျများအတိုင်းသာဆိုလျှင်-

- စစ်တွေမြို့သည် မွန်ပြည်နယ်၌၊ မော်လမြိုင်မြို့သည် ကချင်ပြည်နယ်၌၊ မြစ်ကြီးနားမြို့သည် ကယားပြည်နယ်၌၊ လွယ်ကော်မြို့သည် ရခိုင်ပြည်နယ်၌ ရှိသည်ဟု အဓိပ္ပာယ်ထွက်နေပါသည်။
- ကျောင်းဆရာက စိုက်ပျိုးခြင်း၊ လယ်သမားက ရောင်းဝယ်ခြင်း၊ ကုန်သည်က စာသင်ကြားခြင်း အလုပ်များကို လုပ်ရသည်ဟု အဓိပ္ပာယ်ထွက်နေပါသည်။

ထိုဝါကျများကို အစီအစဉ်မှန်အောင် အောက်ပါအတိုင်း ရေးသင့်ပါသည်။

စစ်တွေမြို့၊ မော်လမြိုင်မြို့၊ မြစ်ကြီးနားမြို့၊ လွယ်ကော်မြို့တို့သည် ရခိုင်ပြည်နယ်၊ မွန်ပြည်နယ်၊ ကချင်ပြည်နယ်၊ ကယားပြည်နယ်တို့၌ အသီးသီးရှိကြ၏။

ကျောင်းဆရာများ၊ လယ်သမားများ၊ ကုန်သည်များသည် စာသင်ကြားခြင်း၊ စိုက်ပျိုးခြင်း၊ ရောင်းဝယ်ခြင်း လုပ်ငန်းများကို အသီးသီး လုပ်ကိုင်ရမြဲဖြစ်သည်။

## (င) ပုဒ်ထားမှားဝါကျ

ဝါကျတစ်ကြောင်းတွင် ပါဝင်သော ပုဒ်များ သူ့နေရာနှင့်သူ မှန်မှန်ကန်ကန် မရှိလျှင် အဓိပ္ပာယ်တစ်မျိုး ပြောင်းသွားသည် အထိ

ဖြစ်နိုင်ပါသည်။ ထိုအခါမျိုးတွင် စာရေးသူဆိုလိုသည်က တခြား၊ အဓိပ္ပာယ်ပေါက်သည်ကတခြား ဖြစ်သွားတတ်ပါသည်။ ပုံစံပြပါမည်။

- ကလေးငယ်သည် **လမ်းပေါ်က** အဘိုးအိုကို ကြည့်နေ၏။
- ကလေးငယ်သည် အဘိုးအိုကို **လမ်းပေါ်က** ကြည့်နေ၏။
- **လမ်းပေါ်က** ကလေးငယ်သည် အဘိုးအိုကို ကြည့်နေ၏။

ဤဝါကျ သုံးကြောင်းစလုံးတွင် ကလေးငယ်သည် ကြည့်နေသူ၊ အဘိုးအိုသည် အကြည့်ခံရသူ ဖြစ်ပါသည်။ သို့သော် "လမ်းပေါ်က" ဟူသော ပုဒ်နေရာကို လိုက်၍ ဝါကျများ အဓိပ္ပာယ် ကွဲပြားသွားကြောင်း တွေ့နိုင်ပါသည်။ အဘိုးအိုသည် လမ်းပေါ်မှာ ရှိနေကြောင်း ပထမဝါကျက ဖော်ပြသည်။ ကလေးငယ်ကြည့်နေသည့် နေရာသည် လမ်းပေါ်မှာ ဖြစ်ကြောင်း ဒုတိယဝါကျက ဖော်ပြသည်။ ကလေးငယ်သည် လမ်းပေါ်မှာ ရှိနေကြောင်း တတိယဝါကျက ဖော်ပြသည်။ စာရေးသူသည် ပထမဝါကျ၏ အဓိပ္ပာယ်မျိုးကို ဖော်ပြလိုလျှင် ပြထားသည့်အတိုင်း "လမ်းပေါ်က" ကို "အဘိုးအို" နှင့် ကပ်ထားရလိမ့်မည်။ ထိုသို့ ကပ်မထားဘဲ ဒုတိယ တတိယဝါကျတို့ကဲ့သို့ရေးလျှင် ဆိုလိုသော အဓိပ္ပာယ်မထွက်ဘဲ "ပုဒ်ထားမှားဝါကျ" ဖြစ်သွားပါလိမ့်မည်။ နောက်ထပ် သာဓက ပြပါဦးမည်။

၁၉၄၈ ခုနှစ်တွင် လွတ်လပ်ရေး ဆုံးရှုံးခဲ့ရသော မြန်မာနိုင်ငံသည် လွတ်လပ်ရေးကို ပြန်လည်ရရှိခဲ့သည်။

ဤဝါကျသည် ပုဒ်ထားမှားဝါကျဖြစ်ပါသည်။ ဤဝါကျအတိုင်း သာဆိုလျှင် မြန်မာနိုင်ငံသည် ၁၉၄၈ ခုနှစ်တွင် လွတ်လပ်ရေး ဆုံးရှုံးရသလို ဖြစ်နေပါသည်။ စင်စစ် "၁၉၄၈" ခုနှစ်တွင် ဟူသော ပုဒ်သည် "လွတ်လပ်ရေးဆုံးရှုံးခဲ့ရသော" နှင့် မဆိုင်။ "လွတ်လပ်ရေးကို ပြန်လည်ရရှိခဲ့သည်" နှင့်သာ ဆိုင်သည်။ ထို့ကြောင့် -

လွတ်လပ်ရေးဆုံးရှုံးခဲ့ရသော မြန်မာနိုင်ငံသည် ၁၉၄၈ ခုနှစ်
တွင် လွတ်လပ်ရေးကို ပြန်လည်ရရှိခဲ့သည်။

ဟု ဆိုင်ရာပုဒ်ချင်းကပ်ပြီး ပေးလိုက်မှ လိုအပ်သော အဓိပ္ပာယ်ကို ရပါလိမ့်မည်။ ထို့အတူ အခမ်းအနားအချို့တွင် အခမ်းအနားမှူးက-

"သဘာတိကြီးအား အမှာစကားပြောကြားပေးပါရန် ပန်ကြား
အပ်ပါသည် ခင်ဗျား"

ဟု ပန်ကြားလေ့ရှိသည်ကို ကြားရတတ်ပါသည်။ ထိုပန်ကြားချက်သည်လည်း ပုဒ်ထားမှားဝါကျ ဖြစ်နေပါသည်။ "သဘာပတိကြီးအား" ဟူသော ပုဒ်သည် "အမှာစကားပြော" နှင့် မဆိုင်။ ပန်ကြားခြင်းနှင့်သာ ဆိုင်သည်။ သို့သော် ဆိုင်ရာပုဒ်နှင့် ကပ်မထားသည့်အတွက် အခြားတစ်စုံတစ်ယောက်က သဘာပတိကြီးအား အမှာစကားပြောရတော့မလိုလို အဓိပ္ပာယ်ပေါက်သွားပါသည်။ ဤသို့ မပန်ကြားဘဲ-

အမှာစကားပြောကြားပေးပါရန် သဘာပတိကြီးအား ပန်ကြား
အပ်ပါသည်ခင်ဗျား"

ဟု ပန်ကြားမည်ဆိုလျှင် အပန်ကြားခံရသော သဘာပတိကြီးနှင့် ပန်ကြားဟူသော ကြိယာတို့ကပ်နေသည့်အတွက် အဓိပ္ပာယ်ကောက်လွဲစရာ မရှိတော့ပါ။

သို့ဖြစ်၍ ပုဒ်ထားမှန်အောင် မည်သည့်အချက်ကို ဂရုပြုသင့်သနည်း။ ဂရုပြုသင့်သောအချက်ကို စကားတစ်ခွန်းတည်းနှင့် ဖော်ပြနိုင်ပါသည်။ "ဆိုင်ရာ၊ ဆိုင်ရာချင်း အတတ်နိုင်ဆုံး ကပ်ထားပါ" ဟူ၍ ဖြစ်ပါသည်။

မှန်ပါသည်။ ဝါကျထဲတွင် ဘယ်အချက်နှင့် ဘယ်အချက် ဆိုင်သနည်း။ ဘယ်ပုဒ်နှင့် ဘယ်ပုဒ်ဆိုင်သနည်း။ ထိုသို့ ဂရုပြုပြီး ဆိုင်ရာအချက်ချင်း၊ ဆိုင်ရာပုဒ်ချင်း အတတ်နိုင်ဆုံး ကပ်ထားမည်ဆိုလျှင် ပုဒ်ထားမှားဝါကျမျိုးဖြစ်စရာ မရှိတော့ပါ။

ဤနေရာတွင် ဆိုင်ရာ၊ ဆိုင်ရာပုဒ်များဟု ဆိုနိုင်သော ပုဒ်လေးစုံကို ဖော်ပြလိုပါသည်။

(၁) နာမဝိသေသန (နာမ်ကိုအထူးပြုသောပုဒ်) နှင့် နာမ်၊ (၂) ကြိယာဝိသေသန (ကြိယာကို အထူးပြုသောပုဒ်) နှင့် ကြိယာ၊ (၃) နာမ် (ပြုလုပ်သူ) နှင့် ကြိယာ၊ (၄) နာမ် (ပြုလုပ်ခံရသူ) နှင့် ကြိယာတို့ဖြစ်သည်။

ဆိုင်ရာ၊ ဆိုင်ရာပုဒ်တို့ နီးကပ်မှုကိုလိုက်၍ ဝါကျများ အဓိပ္ပာယ် ကွဲတတ်ပုံကို အောက်ပါအတိုင်း တွေ့နိုင်ပါသည်။

## နာမဝိသေသနနှင့်နာမ်

- ဆင်းရဲသောအဘိုးအို၏ သားငယ်သည် သနားဖွယ် ကောင်းလေစွ။ (ဆင်းရဲသူမှာ အဘိုးအိုဖြစ်သည်။)
- အဘိုးအို၏ ဆင်းရဲသောသားငယ်သည် သနားဖွယ်ကောင်းလေစွ။ (ဆင်းရဲသူမှာ သားငယ်ဖြစ်သည်။)

## ကြိယာဝိသေသန နှင့် ကြိယာ

- ဆရာသည် ကျောင်းသားများအား မဆူညံကြရန် စာသင်ခန်းထဲတွင် ဆုံးမ၏။ (ဆုံးမသောနေရာသည် စာသင်ခန်းထဲတွင် ဖြစ်သည်)
- ဆရာသည် ကျောင်းသားများအား စာသင်ခန်းထဲတွင် မဆူညံကြရန် ဆုံးမ၏။ (စာသင်ခန်းထဲတွင် မဆူညံကြရန်၊ ဆူညံလိုလျှင် စာသင်ခန်းအပြင်သို့ ထွက်ကြရန်ဟူ၍ အဓိပ္ပာယ်ရသည်)

## နာမ်(ပြုလုပ်သူ) နှင့် ကြိယာ

- ဆရာတော်သည် စိတ်ဆိုးသောကြောင့် ဆူပူနေသော ဒါယကာကို ခေါ်ယူကြိမ်းမောင်း၏။ (ဆရာတော် စိတ်ဆိုးနေသည်။)

- စိတ်ဆိုးသောကြောင့် ဆူပူနေသော ဒါယကာကို ဆရာတော်က ခေါ်ယူကြိမ်းမောင်း၏။ (ဒါယကာ စိတ်ဆိုးနေသည်။)

## နာမ်(ပြုလုပ်ခံရသူ) နှင့် ကြိယာ

- စာမေးပွဲကျသူများသည့်အတွက် စုံစမ်းစစ်ဆေးရန် ကျောင်းအုပ်ဆရာကြီးအား တိုင်ကြား၏။ (စုံစမ်းစစ်ဆေးရန် ဆရာကြီးကို တိုင်ခြင်း)
- စာမေးပွဲကျသူများသည့်အတွက် ကျောင်းအုပ်ဆရာကြီးအား စုံစမ်းစစ်ဆေးရန် တိုင်ကြား၏။

(တာဝန်ရှိသော ဆရာကြီးအား စုံစမ်းစစ်ဆေးရန် အထက်သို့ တိုင်ခြင်း)

ဆိုင်ရာဆိုင်ရာပုဒ်တို့၏ သဘောကို သိသာရုံပြခြင်း ဖြစ်ပါသည်။

ယခုပြထားသကဲ့သို့ နာမဝိသေသန၊ နာမ်၊ ကြိယာ ဝိသေသန၊ ကြိယာ စသည့်စကားများကို မသိစေကာမူ အဓိပ္ပာယ်အရ ဆက်စပ်မှုအရှိဆုံး အချက်အလက်ချင်းကပ်၍ ဝါကျဖွဲ့မည်ဆိုလျှင် ဆိုင်ရာပုဒ်ချင်း နီးသွားမည်သာ ဖြစ်ပါသည်။ ပုဒ်ထားများစရာ အကြောင်းမရှိနိုင်ပါ။ ပုဒ်ထားမှန်လျှင် လိုချင်သည့်အဓိပ္ပာယ်လည်း မှန်မှန်ကန်ကန် ပေါ်ထွက်လာမည်သာဖြစ်ပါသည်။

ဤမျှဆိုလျှင် စာရေးသူ၏ ဆိုလိုချက်ကို မှန်မှန်ကန်ကန် ဖော်ပြနိုင်ရန်အတွက် ဂရုပြုသင့်သောအချက်များ ထင်ရှားလောက်ပါပြီ။



# အခန်း (၅)

## ရှင်းရှင်းလင်းလင်း

စာရေးကောင်းသည့်လက္ခဏာမှာ မိမိဆိုလိုရင်း သူတစ်ပါး ဒက်ခနဲ နားလည်အောင် ရေးနိုင်ခြင်းပင် ဖြစ်၏။ ခက်ခဲနက်နဲသော အချက်အလက်များကိုပင်လျှင် သူတစ်ပါး ရှင်းရှင်းလင်းလင်း သိလွယ်အောင် ရေးနိုင်လျှင် စာအရေးအသား ကောင်းသည်ဟု ဆိုရမည်ဖြစ်၏။[၁]

ဆရာမောင်ထင်၏ အဆိုအမိန့်ဖြစ်ပါသည်။ ဆရာ့အဆိုအမိန့် အတိုင်းပင် မိမိဆိုလိုချက်ကို သိလွယ်အောင် ရှင်းရှင်းလင်းလင်းရေးနိုင်မှသာ စာဖတ်သူ ဒက်ကနဲ နားလည်ပေလိမ့်မည်။ ထို့ကြောင့် ရှင်းလင်းမှုကို စကားပြေကောင်းလက္ခဏာတစ်ရပ်အဖြစ် သတ်မှတ်ရခြင်းဖြစ်သည်။

ရှင်းလင်းမှု ဆိုရာ၌ စကားအသုံးအနှုန်း ရှင်းလင်းမှုနှင့် ဝါကျဖွဲ့ထုံးရှင်းလင်းမှုတို့ကို အဓိကဆိုလိုပါသည်။ သို့ဖြစ်လျှင် စကားအသုံးအနှုန်း ရှင်းလင်းအောင် မည်သည့်အချက်များကို ဂရုပြုသင့်သနည်း။ ဂရုပြုသင့်သော အချက်များကို ဆွေးနွေးရာတွင် စကားသုံးပုံမရှင်းလင်းမှု၊ ဝါကျဖွဲ့ပုံ မရှင်းလင်းမှုများကို သာဓကဆောင်၍ ဆွေးနွေးပါမည်။

---

၁။ မောင်ထင်။ စာရေးလိုသော်၊ အတွေးနှင့်အရေး။ ၁၉၆၆ ဇန်နဝါရီ၊ စာ၊ ၉၂။

## (က) စကားကြီးစကားခက်များ

နေ့စဉ်သုံးလေ့မရှိဘဲ စာကြီးပေကြီးများထဲတွင်သာ တွေ့နိုင်သော စကားများ၊ ပေါရာဏ (ရှေးသုံး)စကားများ၊ ကဗျာသုံးစကားများကို "စကားကြီးစကားခက်များ" ဟု ဆိုလိုခြင်းဖြစ်သည်။ ထိုစကားများကို သုံးလျှင် စာဖတ်သူတိုင်း အလွယ်တကူ ရှင်းရှင်လင်းလင်း နားမလည်နိုင်ပါ။ ထို့ကြောင့် နားလည်လွယ်အောင် ရှင်းရှင်းလင်းလင်းရေးလိုလျှင် ထိုစကားကြီးကို ရှောင်သင့်ပါသည်။ သာဓကပြပါမည်။

"အောင်ဘာလေ သိန်းဆုဖွင့်ပွဲ **တေရသမနေ့** အဖြစ် ဆက်လက်ပြုလုပ်ရာ " **ဧကူနဝီသတိမသိန်းဆု**" မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

သိန်းထီဖွင့်သည့်ရက်ကို အလားတူပင် **"စုဒ္ဒသမနေ့၊ ပန္နရသမနေ့"** စသည်ဖြင့်လည်းကောင်း၊ သိန်းဆုအရေအတွက်ကို **ဝီသတိမသိန်းဆု၊ ဧကဝီသတိမသိန်းဆု** စသည်ဖြင့်လည်းကောင်း ဖော်ပြချင်တတ်ကြပါသည်။ ထိုအသုံးအနှုန်းများကို သာမန်အရပ်သားတစ်ယောက်သည် မည်သို့နားလည်ပါမည်နည်း။ စင်စစ် 'တေရသမ" သည် "၁၃"၊ "စုဒ္ဒသမ" သည် "၁၄"၊ "ပန္နရသမ" သည် "၁၅"၊ "ဧကူနဝီသတိမ" သည် "၁၉"၊ "ဝီသတိမ" သည် "၂၀"၊ "ဧကဝီသတိမ" သည် "၂၁" ဟု အသီးသီး အဓိပ္ပာယ်ရသော ပါဠိစကားများ ဖြစ်ပါသည်။ သို့ဖြစ်လျှင် သိန်းထီဖွင့်ရက်များကို ထိုသို့ရေးမည့်အစား "၁၃ ရက်မြောက်နေ့"၊ "၁၄ ရက်မြောက်နေ့"၊ "၁၅ ရက်မြောက်နေ့ဟူ၍ နေ့စဉ်သုံးစကားများဖြင့်ရေးလျှင် ပို၍ နားလည်ရမလွယ်လော။ သိန်းဆုအရေအတွက်ကိုလည်း "၁၉ ဆုမြောက်သိန်းဆု၊ ဆု ၂၀ မြောက်သိန်းဆု၊ ၂၁ ဆုမြောက် သိန်းဆု ဟူ၍ နေ့စဉ်သုံး စကားများဖြင့်ရေးလျှင် ပို၍ နားလည်ရမလွယ်ပါလော။ သို့ဖြစ်လျှင်

နားလည်ရလွယ်သော ထိုနေ့စဉ်သုံးစကားများကို မသုံးဘဲ နေ့စဉ်မသုံးသော စကားလုံးကြီးများကို အဘယ်ကြောင့် ခက်ခဲစွာ သုံးရပါသနည်း။

ထိုပါဠိစကားလုံးကြီးများသည် စာကြီးပေကြီးများတွင် သုံးဖန်အများသော စကားများဖြစ်သည့်အတွက် စာကြီးပေကြီး အရှိန်အငွေ့ဟပ်ပြီး ခန့်ခန့်ညားညားရှိသည်ဟု ထင်ကြပါသည်။ ထို့ကြောင့် ခန့်ခန့်ညားညား သုံးချင်သည့်နေရာမျိုးတွင် ထိုစကားလုံးကြီးများကို သတိတရ ထည့်သုံးတတ်ကြခြင်းဖြစ်ပါသည်။ သို့ဖြင့် "ရှေးက" ဟု ရိုးရိုးသုံးခြင်းထက် "ပဝေဏီက" ဟု ပဝေဏီ(ရှေး)ဟူသော ပါဠိစကား တွဲသုံးခြင်းက ပို၍ ခန့်ညားသည်ဟု ထင်တတ်ကြသည်။ "လူတို့သည်" ဟု ရိုးရိုးသုံးခြင်းထက် "မနုဿလူသားတို့သည်" ဟု "မနုဿ(လူ)ဟူသော ပါဠိစကားတွဲသုံးခြင်းက ပို၍ခန့်ညားသည်ဟု ထင်တတ်ကြသည်။ ကောင်းကင်က "လ" ကို "လ" ဟု ရိုးရိုးသုံးခြင်းထက် "ယုန်စန်းသီတဂူ" ဟု ကဗျာဆန်ဆန် သုံးခြင်းက ပို၍ခန့်ညားသည်ဟု ထင်တတ်ကြသည်။ "အလျင်အမြန်" ဟု ရိုးရိုးသုံးခြင်းထက် "အလျင်တဆော" ဟုပေါရာဏာ (ရှေးသုံးစကား) တွဲသုံးခြင်းက ပို၍ခန့်ညားသည်ဟု ထင်တတ်ကြသည်။ ထိုစကားများ ထည့်သုံးသည့်အတွက် ခန့်ညားကောင်း ခန့်ညားပါလိမ့်မည်။ သို့သော် နေ့စဉ်သုံးစကားများကို သုံးခြင်းကဲ့သို့ လူတိုင်း နားမလည်နိုင်သည်ကား အမှန်ပင်ဖြစ်သည်။ လူတိုင်းနားမလည်လျှင် ရှင်းလင်းမှုရှိသည်ဟု ဆိုနိုင်ပါမည်လော။

"စာရေးခြင်းမှာ သိစေလို၍ ရေးခြင်းဖြစ်ရာ သိလွယ်အောင် ရေးနိုင်လေလေ အကျိုးထူးလေလေဖြစ်သည်" ဟူသော ဆရာမောင်ထင်၏ အဆိုအမိန့်နှင့်အညီ အများသိလွယ် နားလည်အောင် အများသိနိုင် နားလည်နိုင်သော နေ့စဉ်သုံး စကားများကို သုံးခြင်းက အများနားမလည်

နိုင်သော စာပေသုံး စကားကြီး စကားခက်များကို သုံးခြင်းထက် ပို၍ ရှင်းရှင်းလင်းလင်းရှိပြီး အကျိုးသက်ရောက်ပါလိမ့်မည်။

## (ခ) စကားကွေ့ စကားရှုပ်များ

ရိုးရိုးဖြောင့်ဖြောင့်မသုံးဘဲ ကွေ့ဝိုက်လှည့်ပတ်ကာ ရှုပ်ရှုပ်ထွေးထွေး သုံးသော စကားမျိုးကို "စကားကွေ့ စကားရှုပ်" ဟု ဆိုလိုခြင်းဖြစ်ပါသည်။ စာရေးသူအချို့သည် စကားကွေ့ စကားရှုပ်များကို သုံးမိရာက သူတို့၏ စကားပြေသည် မရှင်းမလင်းဖြစ်သွားရတတ်ပါသည်။

ဤနေရာတွင် စကားကွေ့ စကားရှုပ်များ သုံးမိတတ်သည့် အကြောင်းများကို သုံးသပ် ကြည့်လိုပါသည်။ အကြောင်းတစ်ရပ်မှာ စကားတံရှည် လိုခြင်းဖြစ်သည်။ "ဟုတ်၏" ဆိုလျှင် ပြီးပါလျက် "ဟုတ်၏ဟုဆိုက မှားအံ့မထင်ပေ" ဟု စကားတံရှည်လိုက်သောအခါ "ဟုတ်၏" လောက် ထင်းခနဲမသိသာတော့ဘဲ ကွေ့ကောက်ရှုပ်ထွေးသွားရပါသည်။

အခန်းကဏ္ဍ၊ သဘော၊ အနေအထား စသည့် ထင်းခနဲ မမြင်သာသောစကားများကို ဖောဖောသီသီ သုံးလိုခြင်းသည်လည်း အကြောင်းတစ်ရပ်ဖြစ်သည်။ "ကျွန်တော် စကားပြေရေးနည်းကို ဆွေးနွေးပါမည်" ဟု မရေးဘဲ "ကျွန်တော့်အခန်းကဏ္ဍမှာ စကားပြေရေးနည်း သဘောကို ဆွေးနွေးရမည့်အနေအထားတွင် ရှိပါသည်" ဟု ရေးလျှင် မည်သို့ ထူးခြားသွားပါသနည်း။ နားလည်ရပိုခက်သွားခြင်း၊ ပိုရှုပ်သွားခြင်းသာ ထူးခြားသည်ဟု သဘောရပါသည်။

နောက်အကြောင်းတစ်ရပ်မှာ စကားတစ်လုံးကို ထပ်ကာထပ်ကာ မသုံးလိုသည့်အတွက် "စကားပရိယာယ်" ဟုခေါ်သော အဓိပ္ပာယ်ဆင်တူ

ယိုးမှားစကားများနှင့် လဲလှယ်သုံးခြင်းဖြစ်သည်။ "သူတို့သည် ဘုရားပွဲသို့ လှည်းနှင့်တစ်မျိုး၊ လှေနှင့်တစ်မျိုး၊ ကားနှင့်တစ်မျိုး၊ ရထားနှင့်တစ်မျိုး လာကြ၏" ဟု ရေးလျှင် တစ်မျိုးကိုထပ်တလဲလဲသုံးနေရမည်စိုးသဖြင့် "သူတို့သည် ဘုရားပွဲသို့ လှည်းနှင့်တစ်မျိုး၊ လှေနှင့်တစ်ဖုံ၊ ကားနှင့်တလီ၊ ရထားနှင့်တနည်း လာကြ၏" ဟု ရေးပုံမျိုးဖြစ်သည်။ "တစ်မျိုး" ကို ချည်း ဆက်တိုက်သုံးနေလျှင် နားလည်လွယ်သော်လည်း "တစ်မျိုး၊တစ်ဖုံ၊တစ်လီ၊ တစ်နည်း" ဟု သုံးလိုက်သောအခါ စကားလုံးများ ထွေပြားသွားပြီး ရှင်းခနဲ မပေါ်လွင်တော့ပါ။ "တစ်မျိုး၊ တစ်ဖုံ၊ တစ်လီ၊ တစ်နည်း" တို့မှာ လည်း စကားကွေ့စကားရှုပ်များအဖြစ် တန်ဖိုးလျော့သွားနိုင်ပါသည်။

ထို့ကြောင့် စကားကွေ့ စကားရှုပ်များကို ရှောင်ပြီးသုံးမှသာ ရှင်းရှင်းလင်းလင်း ရှိပါလိမ့်မည်။

## (ဂ) အဓိပ္ပာယ်နှစ်ခွစကားများ

အချို့သောစကားများသည် အဓိပ္ပာယ်နှစ်ခွ ထွက်တတ်ပါသည်။ ထိုစကားမျိုးကို ရှင်းရှင်းလင်းလင်း မသုံးတတ်လျှင် လိုအပ်သော အဓိပ္ပာယ် မရဘဲ ဖြစ်သွားတတ်ပါသည်။ "ငှားသည်" "သင်သည်" ဟူသော စကား မျိုးတို့ဖြစ်သည်။ "ငှားသည်" ဟူသော ကြိယာသည် သူတစ်ပါးကို တစ်စုံတစ်ခု ခေတ္တပေးသည်ဟူ၍လည် အဓိပ္ပာယ်ရသည်။ သူတစ်ပါးထံမှ တစ်စုံတစ်ခု ခေတ္တယူသည်ဟူ၍လည်း အဓိပ္ပာယ်ရသည်။ ထို့အတူ "သင်သည်" ဟူသော ကြိယာသည်လည်း သူတစ်ပါးအား သင်ကြားပေး သည် ဟူ၍လည်း အဓိပ္ပာယ်ရသည်။ သူတစ်ပါးထံမှ သင်ယူသည် ဟူ၍ လည်း အဓိပ္ပာယ်ရသည်။ သို့ဖြစ်လျှင် "ကျွန်တော်အိမ်ငှားမည်" ဟူသော စကားကို မည်သို့အဓိပ္ပာယ်ကောက်မည်နည်း။ ကျွန်တော့်အိမ်ကို သူတစ်ပါး

အား ငှားမည်ဟုလည်း အဓိပ္ပာယ်ကောက်နိုင်ပါသည်။ သူတစ်ပါးအိမ်ကို ကျွန်တော် ခေတ္တငှားမည်ဟုလည်း အဓိပ္ပာယ်ကောက်နိုင်ပါသည်။ ထို့အတူ "ကျွန်တော် အင်္ဂလိပ်စာသင်သည်" ဟူသော စကားကို မည်သို့ အဓိပ္ပာယ်ကောက်မည်နည်း။ ကျွန်တော်က သူတစ်ပါးကို အင်္ဂလိပ်စာ သင်ပေးသည်ဟုလည်း အဓိပ္ပာယ်ကောက်နိုင်ပါသည်။ သူတစ်ပါးထံမှ ကျွန်တော် အင်္ဂလိပ်စာ သင်ယူသည်ဟုလည်း အဓိပ္ပာယ်ကောက်နိုင်ပါသည်။ ထိုသို့ အဓိပ္ပာယ်နှစ်မျိုးလုံးရနေခြင်းမှာ သုံးနှုန်းပုံ ရှင်းရှင်းလင်းလင်း မရှိသောကြောင့် ဖြစ်သည်။ ထိုစကားမျိုးကို သုံးမည်ဆိုလျှင် "ကျွန်တော့်အိမ်ကို မောင်ထွေးအား ငှားလိုက်သည်"၊ "မောင်ထွေးအိမ်ကို ကျွန်တော် ငှားလိုက်သည်"၊ "ကျွန်တော်သူတို့ကို အင်္ဂလိပ်စာသင်ကြားပေးသည်"၊ "ကျွန်တော် ဆရာ့ထံမှ အင်္ဂလိပ်စာသင်ယူသည်" စသည်ဖြင့် စကားစပ် ရှင်းရှင်းလင်းလင်း သုံးသင့်ပါသည်။ သို့မှသာ လိုအပ်သော အဓိပ္ပာယ်ကို ရပါလိမ့်မည်။

## (ဃ) အကောင်အထည်နှင့် သဘောတရား

စာရေးရာတွင် အကောင်အထည် ရုပ်ဝတ္ထုကိုဖော်ပြသည့်စကားမျိုး များများသုံးလေလေ နားလည်ရလွယ်လေလေ၊ အကောင်အထည်မရှိသော သဘောတရား သက်သက်ကို ဖော်ပြသည့်စကားမျိုး များများသုံးလေလေ နားလည်ရ ခက်လေလေဖြစ်သည်ဟု ပညာရှင်တို့ ဆိုကြပါသည်။ စာကို ရှင်းရှင်းလင်းလင်း ရှိစေလိုလျှင်၊ နားလည်လွယ်စေလိုလျှင် အကောင်အထည်ကိုပြသော စကားမျိုး များများသုံးပါဟုလည်း လမ်းညွှန်လေ့ရှိကြပါသည်။

အကောင်အထည် ရုပ်ဝတ္ထုကိုဖော်ပြသည့် စကားမျိုးဆိုသည်မှာ အကောင်အထည် ထင်ထင်ရှားရှားရှိသော သက်ရှိသက်မဲ့တို့ကို ဖော်ပြသော "လူ၊ ခွေး၊ အိမ်၊ ကျောင်း" စသည် စကားများ၊ ထိုအကောင်အထည်တို့၏ လှုပ်ရှားမှုအမူအရာကို ဖော်ပြသော "သွား၊ လာ၊ ပြော၊ ငို" စသည့် စကားများ၊ ထိုအကောင်အထည်တို့၏ အရည်အသွေးကို ဖော်ပြသော "ဖြူ၊ နီ၊ ချဉ်၊ ချို" စသည့် စကားများကို ဆိုလိုပါသည်။

သဘောတရားကို ဖော်ပြသည့် စကားမျိုးဆိုသည်မှာ အကောင်အထည် အထင်အရှားမရှိသော သဘောတရားကို ရည်ညွှန်းဖော်ပြသော "ပညာ၊ ဘဝ၊ ဝါဒ၊ လွတ်လပ်ရေး၊ မျိုးချစ်စိတ်၊ ရောင့်ရဲခြင်း" စသည့် စကားများကို ဆိုလိုပါသည်။

ထိုစကားနှစ်မျိုးလုံး သူ့နေရာနှင့်သူ အရေးပါပါသည်။ သို့သော် အကောင်အထည်ပြ စကားများသည် စာဖတ်သူတို့၏ စိတ်၌ သက်ဆိုင်ရာ အကောင်အထည်များကို ထင်လွယ်မြင်လွယ်ဖြစ်လာအောင် ပြုလုပ်နိုင်စွမ်း ရှိပါသည်။ သဘောတရားပြ စကားများမှာမူ ထိုသို့ ပြုလုပ်နိုင်စွမ်းမရှိပါ။ သဘောတရားဟူသည် အကောင်အထည် လက်ဆုပ် လက်ကိုင်မရှိသည့် အတွက် စာဖတ်သူ၏ စိတ်၌ ထင်လွယ်မြင်လွယ် မဖြစ်နိုင်ပါ။ ထို့ကြောင့် လည်း သဘောတရားတစ်ခုခုကို ရှင်းရှင်းလင်းလင်း သဘောပေါက်လွယ်စေ လိုလျှင် အကောင်အထည်တစ်ခုခု၏ အကူအညီဖြင့် ရှင်းလင်းပြလေ့ ရှိကြပါသည်။

- ဒေါသသည် မြွေဟောက်နှင့်တူ၏။
- ပညာကား ဆီမီးပင်တည်း။

ဟူ၍ အကောင်အထည်မရှိသော "ဒေါသ၊ ပညာ" တို့အကြောင်းကို အကောင်အထည်ရှိသော "မြွေဟောက်၊ ဆီမီး" တို့၏ အကူအညီဖြင့်

ရှင်းပြပုံမျိုးဖြစ်သည်။ ထိုအခါတွင် ဒေါသ၏ ခက်ထန်သောသဘော၊ ပညာ၏ ထွန်းလင်းပျံ့နှံ့သော သဘောများ ထင်ရှားလာရပါသည်။

သဘောတရားကို အကောင်အထည်၏ အကူအညီဖြင့်ရှင်းပြသည်။ ထင်ရှားသော သာဓကေများကား စကားပုံများပင် ဖြစ်သည်။ စကားလုံးများတွင် အဓိကဆိုလိုသော သဘောတရားတစ်ခုခုကို အကောင်အထည်ဖြင့် ပုံဖော်လိုက်သောအခါ ထင်လွယ်မြင်လွယ် ဖြစ်သွားရပါသည်။ ပုံစံအားဖြင့် အချိန်မီ အလုပ်မလုပ်မိ၍ အရာမထင် အကျိုးမဲ့ ဖြစ်ရသည်ဟူသော သဘောတရားကို "မိုးလွန်မှ ထွန်ချ" ဟူ၍ အကောင်အထည်နှင့် ပုံဖော်လိုက်သည့်အတွက် ထင်းခနဲ ပေါ်လွင်သွားရပါသည်။ စကားပုံအတော်များများတွင် ထိုသဘောကို တွေ့နိုင်ပါသည်။

အခန်းကဏ္ဍ၊ သဘော၊ အနေအထားစသော သဘောတရားပြစကားများကို ဖောဖောသီသီသုံးလျှင် မရှင်းမလင်းဖြစ်တတ်ကြောင်း စကားကွေ့ စကားရှုပ်များအခန်းတွင် တင်ပြခဲ့ပြီးဖြစ်ပါသည်။ ထိုသို့သော သဘောတရားပြစကားများကို လုံးဝရှောင်၍ မရနိုင်ပါ။ သူ့နေရာနှင့်သူ သုံးကြရမည်သာ ဖြစ်ပါသည်။ အထူးသဖြင့် နိုင်ငံရေး၊ စီးပွားရေး၊ ဘာသာရေး စသော လေးနက်သည့် အကြောင်းအရာများကို ဖော်ပြရာ၌ "ဘဝ၊ လောက၊ ဝါဒ၊ စနစ်" စသည့် သဘောတရားပြ စကားများကို မလွဲမသွေ သုံးရပါလိမ့်မည်။ သို့သော် စကားပြေကို ပြည်သူ့အသုံးအဆောင် အဖြစ် အများနားလည်အောင် အသုံးပြုရာတွင် အကောင်အထည်ကို ဖော်ပြသော စကားမျိုးကို အတတ်နိုင်ဆုံး များများသုံးပြီး သဘောတရားကို ဖော်ပြသော စကားမျိုးကို အတတ်နိုင်ဆုံး နည်းနည်းသုံးရန် လိုအပ်ပါသည်။ နားလည်ရခက်သော သဘောတရားများကို နားလည်ရ လွယ်သော အကောင်အထည်ပြစကားများ၏ အကူအညီဖြင့် ရှင်းပြရန် လိုအပ်ပါသည်။

အချုပ်ဆိုရလျှင် အကောင်အထည်ပြ စကားများများပါမှ အများနားလည်လွယ်ပါလိမ့်မည်။ အများနားလည်လွယ်မှလည်း ရှင်းရှင်းလင်းလင်း ရှိသည်ဟု ဆိုနိုင်ပါလိမ့်မည်။

## (င) သီးသန့်ဖော်ပြချက်နှင့် ခြုံငုံဖော်ပြချက်

စာရေးရာတွင် ခြုံငုံဖော်ပြရုံနှင့် မရှင်းလင်းမပေါ်လွင်သေးလျှင် သီးသီးသန့်သန့် ပိုင်းခြားဖော်ပြရန် လိုအပ်ပါသည်။ သီးသန့်ပိုင်းခြား ဖော်ပြနိုင်လေလေ ရှင်းရှင်းလင်းလင်း ပေါ်ပေါ်လွင်လွင် ရှိလေလေ ဖြစ်ပါသည်။

သာဓကပြရလျှင် "စာပေ" ဟု ဖော်ပြလျှင် ခြုံငုံဖော်ပြချက်ဖြစ်ပြီး "ဝတ္ထု" ဟု ဖော်ပြလျှင် ထိုစာပေထဲမှ စာပေအမျိုးအစားတစ်ခုကို ကွက်၍ ဖော်ပြသော "သီးသန့်ဖော်ပြချက်" ဖြစ်လာသည်။ ထိုမှတစ်ဖန် "လယ်သမား ဘဝ သရုပ်ဖော်ဝတ္ထု" ဟု ဖော်ပြလျှင်မူ ဝတ္ထုအမျိုးမျိုးထဲမှ တစ်မျိုးကို ထပ်မံ၍ သီးသန့်ဖော်ပြချက် ဖြစ်သွားပါသည်။ ထိုသို့ သီးသန့်ဖော်ပြသည့် သဘောပါလေလေ ပို၍ရှင်းလင်းပေါ်လွင်လေလေ ဖြစ်ပါသည်။

ခြုံငုံသဘောနှင့် သီးသန့်သဘောသည် တစ်ခုကိုတစ်ခု အမှီပြု နေပါသည်။ ပုံစံပြရလျှင် "စားစရာ" ဟု သုံးလျှင် ခြုံငုံသဘောဖြစ်ပြီး "ထမင်း" ဟု သုံးလျှင် သီးသန့်သဘောဖြစ်သည်။ "အုန်းထမင်း" ဟုသုံးလျှင် "ထမင်း" က ခြုံငုံသဘော "အုန်းထမင်း" က သီးသန့်သဘော ဖြစ်သွားပါသည်။ ထို့အတူ "စိုက်ပျိုးရေး" ထက် "စပါးစိုက်ပျိုးရေး" ကပို၍ သီးသန့်သဘောဆောင်ပါသည်။ "စပါးစိုက်ပျိုးရေး" ထက် "ရာကျော်စပါး စိုက်ပျိုးရေး" က ပို၍ပို၍ သီးသန့်သဘောဆောင်ပါသည်။ ထို့အတူ "မကောင်းစိတ်" ထက် "မနာလိုစိတ်" က ပို၍ သီးသန့်သဘောဆောင်ပါသည်။

"မနာလိုစိတ်" ထက် "ကိုယ့်ထက်လှသည်ကို မနာလိုစိတ်" က ပို၍ပို၍ သီးသန့်သဘောဆောင်ပါသည်။

ထိုဖော်ပြချက်နှစ်မျိုးလုံး သူ့နေရာသူ အသုံးဝင်ပါသည်။ သို့သော် ခြုံငုံသဘောဘက်မှ သီးသန့်သဘောဘက်သို့ ပို၍ ရွေ့လျားလာလေလေ ပို၍ ရှင်းလင်းပေါ်လွင်လာလေလေ ဖြစ်သည့်အတွက် ရှင်းရှင်းလင်းလင်း ရှိစေလိုလျှင် သီးသန့်ဖော်ပြချက် များများသုံးရန် လိုအပ်ပါသည်။ သာဓကပြရဦးမည်ဆိုပါက "ပြည်သူ" ဟု သုံးသောအခါ ပြည်သူအားလုံးကို ခြုံငုံပြီး ဆိုလိုရာရောက်သဖြင့် ဘယ်သူဘယ်ဝါ မသဲကွဲလှပါ။ "လုပ်သား ပြည်သူ" ဟု သီးသန့်ပြုလိုက်သောအခါ အလုပ်လုပ်သော ပြည်သူများကိုသာ ပိုင်းခြားဆိုလိုကြောင်း သိသာပြီး "ပြည်သူ" ဟု သုံးခြင်းထက် ပို၍ ထင်ရှားလာရပါသည်။ အောက်ပါဝါကျကို ကြည့်ပါဦး။

> "လွန်ခဲ့သော သုံးရက်က ရန်ကုန်မြို့လယ်ခေါင်တွင် အထက်အောက် ဆင်တူဝတ်၍ လမ်းလျှောက်လာသော မိန်းမပျိုကို မြင်လိုက်သည်နှင့် ကျွန်တော့်သူငယ်ချင်း၏ သမီးဖြစ်ကြောင်း ချက်ချင်း မှတ်မိသွားပါသည်။

ဤဝါကျတွင် ခြုံငုံဖော်ပြသောစကားများ အသုံးများသည့်အတွက် ရှင်းရှင်းလင်းလင်း ပေါ်ပေါ်လွင်လွင် မရှိလှပါ။ "လွန်ခဲ့သောသုံးရက်" သည် ဘယ်နေ့ဘယ်ရက်နည်း။ "ရန်ကုန်မြို့လယ်ခေါင်ဆိုရုံနှင့် ဘယ်နေရာဟု သိနိုင်မည်မဟုတ်ပါ။ "အထက်အောက်ဆင်တူ" ဆိုရုံနှင့် အရောင်အသွေးကို မြင်သာပါမည်လော။ "မိန်းမပျို" ဆိုရာ၌ မည်မျှပျိုရွယ်ပါသနည်း။ "ကျွန်တော့်သူငယ်ချင်း" သည် မည်သူနည်း။ သီးသီးသန့်သန့် မဖော်ပြဘဲ ခြုံငုံဖော်ပြထားသဖြင့် ဤကဲ့သို့ ဝိုးတဝါးဖြစ်နေရခြင်းပင်။

"၁၉၈၀ ပြည့်နှစ် မတ်လ ၁၅ ရက်နေ့ နံနက် ၉ နာရီက ရန်ကုန်မြို့လယ်အနော်ရထာလမ်းနှင့် ပန်းဆိုးတန်းလမ်းထောင့်တွင် ကြည်ပြာရောင် ဆင်တူဝတ်စုံဖြင့် လမ်းလျှောက်လာသော အသက် ၂၀ ခန့်ရှိ မိန်းမပျိုကို မြင်လိုက်သည်နှင့် ကျွန်တော့်သူငယ်ချင်း ကိုဖေသိန်း၏ သမီးဖြစ်ကြောင်း ချက်ချင်း မှတ်မိလိုက်ပါသည်။"

ဤဝါကျသည် ပထမဝါကျထက် ပို၍ ရှင်းလင်းပေါ်လွင်ကြောင်း ဖတ်ကြည့်လျှင် သိနိုင်ပါသည်။ တွေ့မြင်သည့်နေ့ရက်၊ အချိန်နေရာ အတိအကျ၊ မိန်းမပျို၏ ဝတ်စုံအရောင်၊ အသက်အရွယ်၊ သူငယ်ချင်း အမည်ဟူသော သီးသန့်ဖော်ပြချက်များကြောင့် ပို၍ ရှင်းလင်းပေါ်လွင် လာရခြင်း ဖြစ်ပါသည်။ ဤမျှဆိုလျှင် သီးသန့်ပိုင်းခြားဖော်ပြနိုင်လေလေ ရှင်းရှင်းလင်းလင်း ပေါ်ပေါ်လွင်လွင် ရှိလေလေဟူသော အချက်ကို သိသာလောက်ပါပြီ။

ဆက်လက်၍ ဝါကျဖွဲ့ပုံရှင်းလင်းမှုအကြောင်း ဆွေးနွေးပါဦးမည်။

## (စ) ပုဒ်ထားရှုပ်ဝါကျများ

ဝါကျဖွဲ့ရာတွင် ပုဒ်အထားအသို အရေးကြီးပုံကို မှန်မှန်ကန်ကန် အခန်း "ပုဒ်ထားမှားဝါကျ" အပိုင်းတွင် ဆွေးနွေးတင်ပြခဲ့ပါသည်။ တစ်ခါတစ်ရံ ပုဒ်အထားအသိုနေရာမကျသောအခါ "ပုဒ်ထားမှားဝါကျ" အဆင့်သို့ မရောက်သည့်တိုင် "ပုဒ်ထားရှုပ်" သွားသည့် အဖြစ်မျိုးသို့ ရောက်သွားတတ်ပါသည်။ ပုဒ်ထားရှုပ်သွားသဖြင့် ဟိုလို အဓိပ္ပာယ်ကောက်ရ မလို သည်လိုအဓိပ္ပာယ်ကောက်ရမလို ဖြစ်သွားတတ်ပုံမျိုးကို ဆိုလိုခြင်း ဖြစ်ပါသည်။ သာဓကပြပါမည်။

"ရှမ်းပြည်နယ်တောင်ကြီးမြို့နှင့် မိတ္ထီလာမြို့တွင် စုပေါင်း

ရှင်ပြုပွဲများ ကျင်းပသည်။”

ဤဝါကျသည် ပုဒ်ထားမမှားသော်လည်း ပုဒ်ထားရှုပ်သော ဝါကျ ဖြစ်သည်။ “တောင်ကြီး” ၏ ပြည်နယ်ကို ဖော်ပြပြီး မိတ္ထီလာ၏တိုင်းကို မဖော်ဘဲ ရှမ်းပြည်နယ် တောင်ကြီးမြို့နှင့် မိတ္ထီလာမြို့တို့ဟူ၍ ရေးလိုက်သည့်အတွက် တောင်ကြီးရောမိတ္ထီလာပါ ရှမ်းပြည်နယ်ထဲမှာ ရှိသလိုလို အဓိပ္ပာယ်ရှုပ်သွားရခြင်း ဖြစ်ပါသည်။ မိတ္ထီလာလသည် ရှမ်းပြည်နယ်မှာ မရှိကြောင်း အများအသိပင်ဖြစ်သဖြင့် အဓိပ္ပာယ်အနေဖြင့် မှားနိုင်စရာ အကြောင်းမရှိပါ။ သို့သော် ပုဒ်အထားအသို နေရာမကျသည့်အတွက် စာဖတ်သူ၏ စိတ်ထဲတွင် ရှုပ်သွားနိုင်ပါသည်။

ထိုသို့မရေးဘဲ-

“ရှမ်းပြည်နယ်တောင်ကြီးမြို့နှင့် မန္တလေးတိုင်း မိတ္ထီလာမြို့တို့တွင် စုပေါင်းရှင်ပြုပွဲများ ကျင်းပသည်” ဟု ရေးလျှင် ရှုပ်စရာအကြောင်း မရှိပါ။

“တောင်ကြီးမြို့နှင့် မိတ္ထီလာမြို့ပေါ်တွင် စုပေါင်းရှင်ပြုပွဲများ ကျင်းပသည်” ဟု ပြည်နယ်တိုင်းအမည်များ နှစ်နေရာလုံး မထည့်ဘဲ ရေးလျှင်လည်း အဓိပ္ပာယ်ရှင်းလင်းသည်ပင် ဖြစ်ပါသည်။ နောက်ထပ် ပုံစံ ပြပါဦးမည်။

“ကျွန်တော်သည် လမ်းပေါ်က ဖြစ်ရပ်တစ်ခုကို မြင်ရ၍ စာရေးဆရာ မင်းရှင်ရေးသားခဲ့သော ‘လမ်းပေါ်မှာ’ ဝတ္ထုတိုတစ်ပုဒ်ကို သတိရလာပါသည်။”

ဤဝါကျသည်လည်း ပုဒ်ထားရှုပ်ဝါကျပင် ဖြစ်သည်။ ‘လမ်းပေါ်က ဖြစ်ရပ်တစ်ခုကို မြင်ရ၍’ ဟူသော ပုဒ်သည် ‘ကျွန်တော်’ နှင့် ဆိုင်သည် ဟုလည်း ယူနိုင်သည်။ စာရေးဆရာမင်းရှင်နှင့် ဆိုင်သည်ဟုလည်း ယူ

နိုင်သည်။ ကျွန်တော်နှင့် ဆိုင်သည်ဆိုလျှင် လမ်းပေါ်ဖြစ်ရပ်ကို မြင်သူမှာလည်း ကျွန်တော်၊ ဝတ္ထုကို သတိရသူမှာလည်း ကျွန်တော်ဟု အဓိပ္ပာယ်ကောက်ရပါလိမ့်မည်။ မင်းရှင်နှင့် ဆိုင်သည်ဆိုလျှင် လမ်းပေါ်က ဖြစ်ရပ်ကိုမြင်သူမှာ ကျွန်တော်မဟုတ်ဘဲ မင်းရှင်သာ ဖြစ်သည်။ မင်းရှင်က ထိုဖြစ်ရပ်ကို ဝတ္ထုရေးသည်။ ထိုဝတ္ထုကို ဖတ်ရသူဟာ ကျွန်တော်ဖြစ်သည်ဟု အဓိပ္ပာယ်ကောက်ရပါလိမ့်မည်။ ဤသို့ဖြစ်ရခြင်းမှာ 'လမ်းပေါ်က ဖြစ်ရပ်တစ်ခုကို မြင်၍' ဟူသော ပုဒ်ကို ရှေ့နှင့်ရော နောက်နှင့်ပါ ဆိုင်သလိုလို ထင်ရအောင် ပုဒ်ထားနေရာ မကျသောကြောင့် ဖြစ်သည်။ ထိုသို့မရေးဘဲ-

'လမ်းပေါ်က ဖြစ်ရပ်တစ်ခုကို ကျွန်တော် မြင်ရ၍ စာရေးဆရာ မင်းရှင်၏ လမ်းပေါ်မှာ ဝတ္ထုကို သတိရလာပါသည်' ဟု ရေးလျှင် လမ်းပေါ်က ဖြစ်ရပ်ကို မြင်မှုမှာ ကျွန်တော်ဖြစ်ကြောင်း ထင်ရှားသွားပါလိမ့်မည်။

သို့မဟုတ်

'လမ်းပေါ်က ဖြစ်ရပ်တစ်ခုကို စာရေးဆရာမင်းရှင် မြင်ရ၍ ရေးသားခဲ့သော လမ်းပေါ်မှာ ဝတ္ထုတိုတစ်ပုဒ်ကို ကျွန်တော် သတိရလာပါသည်'ဟု ရေးလျှင် လမ်းပေါ်က ဖြစ်ရပ်ကို မြင်သူမှာ မင်းရှင်ဖြစ်ကြောင်း ထင်ရှားသွားပါလိမ့်မည်။

ဤသို့ဖြင့် ဝါကျတစ်ခုအတွင်းရှိ ပုဒ်များကို ရှေ့နှင့်ဆိုင်သလိုလို နောက်နှင့်ဆိုင်သလိုလို ဇဝေဇဝါဖြစ်အောင် မထားဘဲ အသက်ဆိုင်ဆုံး အဆီလျော်ဆုံးနေရာတွင် ရှင်းလင်းပြတ်သားစွာထားမှသာ အဓိပ္ပာယ် ရှင်းရှင်းလင်းလင်း ရှိပါလိမ့်မည်။

## (ဆ) ဝါကျရှည်လျှင် ရှုပ်တတ်သည်

'ကျွန်တော်သည် လမ်းပေါ်က ဖြစ်ရပ်တစ်ခုကို မြင်ရ၍ စာရေးဆရာမင်းရှင်ရေးသားခဲ့သော လမ်းပေါ်မှာ ဝတ္ထုတိုတစ်ပုဒ်ကို သတိရလာပါသည်။' ဤဝါကျသည် 'ပုဒ်ထားရှုပ်ဝါကျ' ဖြစ်ကြောင်း ရှေ့အခန်းတွင် ဆိုခဲ့ပါပြီ။ ဤဝါကျကို ပုဒ်အထားအသို နေရာမပြောင်းဘဲ-

'ကျွန်တော်သည် လမ်းပေါ်ကဖြစ်ရပ်တစ်ခုကို မြင်ရပါသည်။ ဤတွင် စာရေးဆရာမင်းရှင်ရေးခဲ့သော လမ်းပေါ်မှာ ဝတ္ထုတစ်ပုဒ်ကို သတိရလာပါသည်' ဟူ၍ ဝါကျတိုနှစ်ခုခွဲရေးလျှင်လည်း အဓိပ္ပာယ်ရှင်းလင်းကြောင်း တွေ့နိုင်ပါသည်။

ဤနေရာတွင် ဂရုပြုစရာအချက်တစ်ချက်ကို တွေ့ရပါသည်။ ဝါကျတိုနှစ်ကြောင်း ခွဲရေးသောအခါ အဓိပ္ပာယ် ရှင်းလင်းသည်။ ထိုဝါကျတိုနှစ်ကြောင်းကို '၍' ဖြင့် ဆက်၍ ဝါကျရှည်တစ်ကြောင်း တစ်ခုဖြစ်အောင် လုပ်လိုက်သောအခါ 'ပုဒ်ထားရှုပ်ဝါကျ' ဖြစ်သွားပြီး အဓိပ္ပာယ်မရှင်းမလင်း ဖြစ်ရသည်။ အဘယ်ကြောင့်နည်း။

အဖြေရှာလျှင် '၍' ဖြင့် ဆက်ထားသော 'လမ်းပေါ်ကဖြစ်ရပ်တစ်ခုကို မြင်၍' ဟူသော ပုဒ်ကြောင့် ဖြစ်ကြောင်း ရှေ့တွင် ဆိုခဲ့ပြီးပါပြီ။ ထိုပုဒ်သည် သူ့ရှေ့ကပုဒ်နှင့်လည်း ဆက်စပ်နိုင်သည်။ သူ့နောက်ကပုဒ်နှင့်လည်း ဆက်စပ်နိုင်သည်။ ထိုသို့ ရှေ့နှင့်ဆိုင်သလိုလို နောက်နှင့်ဆိုင်သလိုလို ဖြစ်ရသည့်အတွက် ပုဒ်ထားရှုပ်ပြီး အဓိပ္ပာယ်မရှင်းမလင်း ဖြစ်ရခြင်း ဖြစ်ပါသည်။

ဤအချက်နှင့် ပတ်သက်၍ ကောက်ချက်တစ်ခုခုချနိုင်ပါသည်။ ဝါကျရှည်လေလေ '၍' စသည့် စကားဆက်များ သုံးရလေလေ၊ အဓိပ္ပာယ်မရှင်းမလင်းဖြစ်ဖို့ အခွင့်အလမ်းပိုများလေလေဟူသော ကောက်ချက်ပင် ဖြစ်ပါသည်။

မှန်ပါသည်။ ဝါကျတိုသောအခါ '၍၊ သဖြင့်၊ သောကြောင့်' စသည့် စကားဆက်များ သုံးစရာမလိုသဖြင့် ပုဒ်ထားရှုပ်နိုင်စရာမရှိပါ။ ဝါကျရှည်လာသောအခါ '၍၊ သဖြင့်၊ သောကြောင့်' စသည့် စကားဆက်များ သုံးရမြဲဖြစ်ပါသည်။ ထိုအခါ စကားဆက်သုံးပုံ မကျွမ်းကျင်လျှင် ရှေ့နှင့်ဆိုင်သလိုလို နောက်နှင့်ဆိုင်သလိုလို ဖြစ်တတ်ပြီး အဓိပ္ပာယ်မရှင်းမလင်း ဖြစ်ရတတ်ပါသည်။

စာဖတ်သူဘက်က ကြည့်လျှင်လည်း ဝါကျရှည်လေလေ စာဖတ်သူပို၍ ပင်ပန်းလေလေ ဖြစ်တတ်ပါသည်။ စာဖတ်သူတစ်ယောက်သည် စာဖတ်ပြီဆိုလျှင် အနည်းဆုံးဝါကျတစ်ကြောင်းတော့ ဆုံးအောင်ဖတ်မြဲဖြစ်ပါသည်။ ထိုဝါကျသည် တော်တော်နှင့်မဆုံးဘဲ '၍' တွေ 'နှင့်' တွေ 'သဖြင့်' တွေ 'သောကြောင့်' တွေနှင့် အရှည်ကြီး ဆက်နေမည်ဆိုလျှင် စာဖတ်သူသည် ဝါကျမဆုံးမချင်း အသက်အောင့်ထားရသလို ဖြစ်နေပါသည်။ ဝါကျဆုံးသွားမှာ 'ဩော် - ဒါဆိုလိုပါကလား' ဟု ဟင်းချရမလို ဖြစ်တတ်ပါသည်။ ဝါကျရှုပ်လွန်းလျှင် ရှေ့က အချက်များ ရောထွေးမေ့လျော့သွားပြီး မရှင်းမလင်း ဖြစ်တတ်ပါသေးသည်။

အချုပ်ဆိုရလျှင် ဝါကျတိုလေလေ စကားဆက်အသုံးနည်းလေလေ ရှင်းရှင်းလင်းလင်းဖြစ်ဖို့ အခွင့်အလမ်း ပိုများလေလေ ဖြစ်ပါသည်။ ဝါကျရှည်လေလေ စကားဆက်အသုံးရများလေလေ မရှင်းမလင်းဖြစ်ဖို့ အခွင့်အလမ်း ပိုများလေလေ ဖြစ်ပါသည်။ ထို့ကြောင့် မိမိဆိုလိုချက် ရှင်းရှင်းလင်းလင်းဖြစ်စေလိုလျှင် အတတ်နိုင်ဆုံးဝါကျတိုတို ရေးရန် မလွဲမရှောင်သာ၍ ဝါကျရှည်ရှည်ရေးရသည့်အခါမျိုးတွင်လည်း ပုဒ်အထားအသိုအဆက်အစပ်ကို အထူးဂရုပြုရန် လိုအပ်ပါသည်။

ဤမျှဆိုလျှင် စာရေးသူ၏ ဆိုလိုချက် ရှင်းရှင်းလင်းလင်း ဖြစ်ရေး

အတွက် ဂရုပြုသင့်သော အချက်များ ထင်ရှားလောက်ပါပြီ။



## အခန်း (၆)

## တိတိကျကျ

အမှိုက်မပစ်ရ။

အမှိုက်မပစ်ပါနှင့်။

အမှိုက်ပစ်ခြင်းသည်းခံပါ။

ဤစကားသုံးရပ်စလုံး အမှိုက်မပစ်စေလိုကြောင်း ဖော်ပြသည့် စကားရပ်များချည်း ဖြစ်သည့်အတွက် အဓိပ္ပာယ်ချင်း အတူတူဖြစ်သည်ဟု အကြမ်းအားဖြင့် ဆိုနိုင်ပါသည်။ သို့သော် သေသေချာချာ လေ့လာကြည့်လျှင် စကားရပ်တစ်ခုနှင့်တစ်ခု အလေးအပေ့ါ အပျော့အမာ ကွာခြားကြောင်းကို တွေ့ရပါသည်။ "အမှိုက်မပစ်ရ" အမိန့်အာဏာနှင့် တင်းတင်းမာမာ တားမြစ်သည့် သဘောဖြစ်သည်။ "အမှိုက်မပစ်ပါနှင့်" မှာ ပျော့ပျော့ပြောင်း ပြောင်း တားမြစ်သည့် သဘောဖြစ်သည်။ "အမှိုက်ပစ်ခြင်းသည်းခံပါ" မှာမူ မပြုလုပ်ရန် တောင်းပန်သည့်သဘောဖြစ်သည်။ ဤသို့ မိမိဆိုလိုသည့် သဘောကို အလေးအပေ့ါ အပျော့အမာ သဘောပါမကျန် "တိတိကျကျ" ဖော်ပြနိုင်ခြင်းသည် စကားပြေကောင်း၏ လက္ခဏာဖြစ်ပါသည်။

"တိတိကျကျ" ဟူရာ၌ စကားသုံးပုံ တိတိကျကျရှိမှု၊ ဝါကျဖွဲ့ပုံ တိတိကျကျရှိမှုတို့ကို အဓိကဆိုလိုပါသည်။ စကားသုံးပုံနှင့် ပတ်သက်၍ ဦးစွာဆွေးနွေးလိုပါသည်။

### (က) ကြိယာအဆုံးသတ်များ

စာရေးရာ၌ မိမိဆိုလိုသည့် အနက်သဘော တိတိကျကျရအောင် ကြိယာအဆုံးသတ်များကလည်း အထောက်အကူ ပြုနိုင်ပါသည်။

သာဓကအားဖြင့် 'ဖြစ်' ဟူသော ကြိယာကို ဝါကျထဲတွင် အဆုံးသတ်နေရာက ထားမည်ဆိုပါစို့ 'ဖြစ်၏၊ ဖြစ်သည်၊ ဖြစ်ပါသည်၊ ဖြစ်ပေသည်၊ ဖြစ်သတည်း' စသည်ဖြင့် အမျိုးမျိုးအဆုံးသတ်နိုင်ပါသည်။ အားလုံးဖြစ်ကြောင်းပြသည်ချည်းဖြစ်၍ ယေဘုယျအားဖြင့် အနက်အဓိပ္ပာယ် အတူတူပင် ဖြစ်ပါသည်။ အသေးစိတ် လေ့လာကြည့်လျှင်မူ အလေးအပေါ့ ကွာခြားကြောင်း တွေ့နိုင်ပါသည်။

ဖြစ်ကြောင်းပြချင်းအတူတူ 'ဖြစ်၏' ဟု ဆိုခြင်းက 'ဖြစ်သည်' ဟုဆိုခြင်းထက် ပို၍ ပြတ်ပြတ်တောက်တောက် ရှိပါသည်။ '၏' က 'သည်' ထက်ပို၍ အသံပြတ်တောက်သောကြောင့် ဖြစ်သည်။ 'ဖြစ်ပါသည်' က ယဉ်ကျေးသည့် သဘောပါဝင်ပါသည်။ 'ဖြစ်လေသည်' က လေးနက်သော သဘောပါသည်။ 'ဖြစ်သတည်းက' က အဆုံးသတ်ပိတ်ပြီး အလေးအနက် ဖော်ပြသည့်သဘော ပါဝင်သည်။ ဤသို့ဖြင့် ဆိုလိုသည့် အနက်၏ သဘော တိတိကျကျရအောင် 'ဖြစ်၊ သည်၊ ပါသည်၊ ပေသည်၊ သတည်း' စသော ကြိယာအဆုံးသတ်များကို ရွေးချယ်သုံးနှုန်းနိုင်ပါသည်။

## (ခ) စကားလုံးနောက်ကွယ်က ခံစားမှု

မြွေသည် အဆိပ်ရှိသော သတ္တဝါဖြစ်သည်။ ကိုက်လျှင် သေနိုင်သော သတ္တဝါဖြစ်သည်။ ထို့ကြောင့် လူသည် မြွေကို ကြောက်သည်။ ထိုမှတဖန် တကယ့်မြွေကိုမတွေ့ရသော်လည်း မြွေဟူသော စကားသံကိုကြားလျှင် တကယ့်မြွေကို သတိရပြီး ကြောက်သည်။ တစ်ယောက်ယောက်က မြွေ မြွေဟု အော်လိုက်လျှင် တကယ့်မြွေရှိရှိ၊ မရှိရှိ ကြားရသူ၌ ထိန့်လန့်

တကြား ဖြစ်သားတတ်သည်မှာ အထင်အရှားပင်။ ထို့ပြင် ကြောက်ခြင်း ဟူသော ခံစားမှုသည် တကယ့်မြွေသတ္တဝါ၏ နောက်ကွယ်တွင်သာမက မြွေဟူသော စကားလုံး၏ နောက်ကွယ်တွင်လည်း ယှဉ်တွဲကပ်ပါနေ တော့သည်။

ဤသို့ဖြင့် အချို့သောစကားများသည် နောက်ကွယ်တွင် ခံစားမှု အမျိုးမျိုး ယှဉ်တွဲကပ်ပါသည့် စကားများ ဖြစ်နေပါသည်။ 'ဘုရား' ဟူသော စကားကြားလျှင် ကြည်ညိုသောခံစားမှုမျိုး၊ 'အမေ' ဟူသော စကားကို ကြားလျှင် ချစ်ခင်သောခံစားမှုမျိုး၊ 'သူခိုး' ဟူသော စကားကိုကြားလျှင် မနှစ်မြို့သော ခံစားမှုမျိုး ပေါ်လာတတ်သည်မှာ ထိုသဘောမျိုးပင် ဖြစ်ပါသည်။ စကားလုံးတိတိကျကျ ဖြစ်ရေးနှင့် ပတ်သက်၍ ဆိုရလျှင် သက်ဆိုင်ရာခံစားမှုမျိုးကို တိတိကျကျ ဖော်ပြနိုင်သည့် စကားမျိုးဖြစ်အောင် ရွေးချယ်ရန်အထိ လိုအပ်ပါသည်။

အကြောင်းအရာတစ်ခုတည်းကို ဖော်ပြနေသော်လည်း နောက်ကွယ်က ခံစားမှုမတူသည့် စကားများ ရှိပါသည်။ ဖခင်ကို 'မွေးသဖခင်' ဟူ၍ လည်း ရည်ညွှန်းနိုင်သည်။ 'အဖေ' ဟူ၍လည်း ရည်ညွှန်းနိုင်သည်။ 'အိမ်ကအဘိုးကြီး' ဟူ၍လည်း ရည်ညွှန်းနိုင်ပါသည်။ ထိုစကားသုံးရပ်သည် 'ဖခင်' ဟူသော အကြောင်းတစ်မျိုးတည်းကို ဖော်ပြသော စကားများဖြစ် သော်လည်း နောက်ကွယ်က ယှဉ်တွဲကပ်ပါနေသော ခံစားမှုခြင်း ကွာဝေး လှပါသည်။ 'မွေးသဖခင်' ဟု သုံးလျှင် ဖခင်ကို ကြည်ညိုလေးစားသော ခံစားမှုမျိုး ယှဉ်တွဲနေသည့် သဘောဖြစ်ပါသည်။ 'အဖေ' ဟု သုံးလျှင် ကြည်ညိုမှု၊ မကြည်ညိုမှု မခွဲခြားနိုင်သော 'ပုံမှန်ခံစားမှုမျိုး' ယှဉ်တွဲနေ သည့် သဘောဖြစ်ပါသည်။ 'အိမ်ကအဘိုးကြီး' ဟု သုံးလျှင် သူ့ဖခင်ကို မလေးစားသော ပေါ့ပျက်ပျက်ခံစားမှုမျိုးကို ယှဉ်တွဲနေသည့် သဘော

ဖြစ်ပါသည်။

ထို့အတူ စားရန် တိုက်တွန်းရာ၌ 'သုံးဆောင်ပါ' ဟု သုံးလျှင် လေးစားသော ခံစားမှုမျိုးပါကြောင်း ထင်ရှားပါသည်။ 'စားပါ' ဟု သုံးလျှင် လေးစားသည်၊ မလေးစားသည် မဟုတ်သော ပုံမှန်ခံစားမှုပါကြောင်း ထင်ရှားပါသည်။ 'လွေးလိုက်စမ်းပါ' ဟု သုံးလျှင်မူ ရင်းနှီးသော ခံစားမှုပါကြောင်း ထင်ရှားပါသည်။ 'မျိုဟဲ့ဆို့ဟဲ့' ဟု သုံးလျှင်ကား မနှစ်မြို့သော ဒေါသသံနှင့်ယှဉ်သော ခံစားမှုပါကြောင်း ထင်ရှားပါသည်။

အချို့သော စကားများ၏ နောက်ကွယ်ရှိ ခံစားမှုသဘောများသည် ပြင်းထန်သည့်အတွက် နားမခံသာခြင်း၊ ကြောက်ရွံ့ခြင်း၊ မနှစ်မြို့ခြင်းတို့ ဖြစ်တတ်ပါသည်။ ထိုအခါမျိုးတွင် လူတို့သည် နားခံသာသော ခံစားမှု ပျော့သောစကားကို အစားထိုး သုံးတတ်ကြပါသည်။ ဆိုပါစို့။ မြွေကိုက်သည်ဟူသော စကားကို ကြားရရုံဖြင့် တကယ်မြွေကိုက်ခံရသလို ထင်ပြီး အထိတ်တလန့် ဖြစ်တတ်ပါသည်။ ထို့ကြောင့် နားခံသာသော 'ပိုးထိသည်' ဟူသော စကားဖြင့် အစားထိုး သုံးတတ်ကြပါသည်။ ထို့အတူ ဗိုက်ကြီးသည်ဟုသုံးလျှင် ရိုင်းသဖြင့် ကိုယ်ဝန်ဆောင်ဟုသုံးခြင်း၊ လမ်းသူရဲ ဟု သုံးလျှင် ကြမ်းသဖြင့် 'ဆိုးသွမ်းလူငယ်' ဟု သုံးခြင်း၊ 'တံငါ' ဟု သုံးလျှင် အကုသိုလ်ဖြင့် အသက်မွေးသူဟူ၍ မနှစ်မြို့ဖွယ် ခံစားမှုကပ်ပါလာသဖြင့် 'ရေလုပ်သား' ဟု သုံးခြင်းတို့မှာလည်း ထိုသဘောပင် ဖြစ်ပါသည်။

ဤသို့ဖြင့် စကားပုံသုံးရာတွင် နောက်ကွယ်က ကပ်ပါသော ခံစားမှုပါ တိတိကျကျ ဖော်ပြနိုင်သည့်စကားမျိုးကို ရွေးချယ်သုံးရန် လိုအပ်ပါသည်။

## (ဂ) ဝါကျထဲက တန်းတူရည်တူ အချက်အလက်များ

တိတိကျကျရှိမှုနှင့် ပတ်သက်၍ ပထမဆုံးတင်ပြလိုသော အချက်ကား တန်းတူရည်တူဖြစ်သော အချက်အလက်များကို တန်းတူရည်တူသဘော ထင်ရှားအောင် ဝါကျဖွဲ့ပြခြင်းပင်ဖြစ်သည်။ ဤသို့ ဝါကျဖွဲ့ပြရာတွင် သုံးလေ့ရှိသောနည်းကား တန်းတူရည်တူ အချက်အလက်များကို ပုံစံတူ စကားစုများဖြင့် ဖော်ပြသည့်နည်းပင် ဖြစ်သည်။

ဤမိန်းမမျိုးကား 'ရုပ်လည်းချော၊ သဘောလည်းကောင်း၊ အပြောလည်း ချိုလှပေသည်'။

ဤဝါကျတွင် မိန်းမပျို၏ ဂုဏ်အင်္ဂါသုံးရပ် ပါဝင်သည်။ ရုပ်ချောခြင်း၊ သဘောကောင်းခြင်း၊ အပြောချိုခြင်းတို့ ဖြစ်သည်။ ထိုဂုဏ်တို့သည် မည်သည့်ဂုဏ်က ဘယ်ဂုဏ်ထက်ပို၍ အရေးပါသည်ဟူသော သဘောမရှိဘဲ မိန်းမပျိုအတွက် အားလုံး တန်းတူရည်တူ အရေးပါသည် ဟူသော ဂုဏ်များဖြစ်သည်ဟု ဖော်ပြလိုသောအခါ အထက်ပါအတိုင်း ရုပ်လည်းချော၊ သဘောလည်းကောင်း၊ အပြောလည်းချို ဟူ၍ ပုံစံတူ သုံးခုနှင့် ဖော်ပြလိုက်ခြင်းဖြင့် စာဖတ်သူအနေဖြင့် ပို၍ အာရုံပြုမိသည်နှင့်အမျှ ဤဂုဏ်တို့၏ တန်းတူရည်တူ သဘောသည်လည်း ထင်ရှား လာရပါသည်။ ထိုသို့မရေးဘဲ -

'ထိုမိန်းမပျိုကား ရုပ်ချောသဘောကောင်းသည့်အပြင် အပြောလည်း ချိုလှပေသည်' ဟု ရောနှောရေးလိုက်လျှင်မူ ဝါကျဖွဲ့ထုံးမှန်သော်လည်း ဂုဏ်သုံးမျိုးကို ထင်းခနဲ မမြင်သာတော့ပါ။ ပုံစံတူစကားစုများနှင့် မဖော်ပြ။ သူမအတွက် တန်းတူရည်တူသဘော တိတိကျကျ မပေါ်လွင်တော့ဘဲ ရောနှောသွားမည် ဖြစ်သည်။

ဆရာ၏ 'အောင်မြင်သောအသံ၊ အသက်ဝင်သောပြောဟန်၊

ရှင်းလင်းသော အသင်အပြတို့ကို အမြဲသတိရနေပါသည်'

ဤဝါကျတွင်လည်း အသံအောင်မြင်ခြင်း၊ ပြောဟန်အသက်ဝင်ခြင်း၊ အသင်အပြရှင်းလင်းခြင်း ဟူသော ဆရာ၏ ဂုဏ်ရည်သုံးမျိုးကို အောင်မြင်သော၊ အသက်ဝင်သော၊ ရှင်းလင်းသော ဟူ၍ 'သော' ပါသော ပုံစံတူစကားစု သုံးခု၌ ဖော်ပြလိုက်သည့်အတွက် ထိုဂုဏ်သုံးမျိုးသည် ထင်းခနဲ ပေါ်လွင်လာသည်နှင့်အမျှ တန်းတူညီတူ အရေးပါသောသဘောမျိုးသည် တိတိကျကျ ထင်ရှားလာပါသည်။ ထိုသို့မရေးဘဲ -

'အောင်မြင်သော အသံရှင်ဆရာသည် အသက်ဝင်အောင် ပြောဆိုလျက် ရှင်းရှင်းလင်းလင်း တင်ပြသည်ကို အမြဲသတိရနေပါသည်' ဟု ရေးလျှင်မူ အကြောင်းအရာချင်း အတူတူပင် ဖြစ်သော်လည်း ဂုဏ်သုံးမျိုးထင်းခနဲ မပေါ်လွင်တော့ပေ။ ရေးပုံ ရောနှောရှုပ်ထွေးမှုကြောင့် ဂုဏ်သုံးမျိုး၏ တန်းတူရည်တူသဘောမျိုးသည်လည်း တိတိကျကျ မပေါ်လွင်ဟု ဆိုရပါမည်။

ငယ်စဉ်ကကြားနေကျ ပလွေသံများ၊ မြင်နေကျ လယ်ကွင်းများ၊ တွေ့နေကျ အပေါင်းအသင်းများကို ကြားလိုမြင်လိုလှပါတော့သည်။

အလုပ်သမားကို စိတ်ဝင်စားသူသည် အလုပ်သမားအကျိုးကို သယ်ပိုးခြင်းဖြင့် လည်းကောင်း၊ လယ်သမားကို စိတ်ဝင်စားသူသည် လယ်သမားအကျိုးကို သယ်ပိုးခြင်းဖြင့်လည်းကောင်း၊ လူငယ်ကို စိတ်ဝင်စားသူသည် လူငယ်အကျိုးကို သယ်ပိုးခြင်းဖြင့် လည်းကောင်း မိမိစွမ်းအားရှိသလောက် အကျိုးပြုနိုင်ပေသည်။

ရူပဗေဒညံ့သူသည် မိမိညံ့သော ရူပဗေဒကို အထူးလေ့လာလျှင်၊ ဓာတုဗေဒညံ့သူသည် မိမိညံ့သော ဓာတုဗေဒကို အထူးပြု လေ့လာလျှင် သင်္ချာညံ့သူသည် မိမိညံ့သော သင်္ချာကို အထူးလေ့လာလျှင် နားလည်

တတ်မြောက်သည်နှင့်အမျှ ရူပဗေဒ၊ ဓာတုဗေဒ၊ သင်္ချာဟူသော အခက်အခဲများကို အောင်မြင်စွာ ကျော်လွှားနိုင်ပါလိမ့်မည်။

အထက်ပါ ဝါကျများတွင် တန်းတူရည်တူ အချက်အလက်များကို ပုံစံတူ စကားစုများဖြင့် တိတိကျကျ သပ်သပ်ရပ်ရပ် ဖော်ပြထားသည်ကို လေ့လာနိုင်ပါသည်။

တစ်ခုဆိုစရာရှိပါသည်။ ပုံစံတူစကားစုများဖြင့် ဖွဲ့ထားသော ဝါကျမျိုးကို နေရာတိုင်းတွင် သုံးရမည်ဟု ဆိုလိုခြင်း မဟုတ်ပါ။ ရေးသမျှဝါကျတိုင်း ဤဝါကျမျိုးချည်း ဖြစ်နေလျှင်လည်း သဘာဝကျမည် မဟုတ်ပါ။ တမင်လုပ်ရေးကြောင်း ထင်ရှားနေပါလိမ့်မည်။ အခြားအကြောင်းအရာများကို ရေးသားဖော်ပြနေခိုက် တန်းတူရည်တူ အချက်အလက်များကို တိတိကျကျ ဖော်ပြရန် လိုအပ်သော အခါမျိုးကျမှ ဤဝါကျမျိုးကို သုံးလျှင်မူ သဘာဝလည်း ကျပါသည်။ ရေးရိုးရေးစဉ် ဝါကျအများစုထဲတွင် ထူးခြားပေါ်လွင်နေသော ပုံစံတူဝါကျမျိုးဖြစ်၍ စာဖတ်သူအနေနှင့်လည်း ပို၍အာရုံစိုက်မိနိုင်ဖွယ် ရှိပါသည်။ မိမိဆိုလိုချက်ကိုလည်း စာဖတ်သူအနေနှင့် တိတိကျကျ နားလည်နိုင်ပါလိမ့်မည်။

## (ဃ) ဝါကျထဲက အလေးပေးပုံသဘော

ဝါကျထဲတွင် မိမိအလေးပေးလိုသောအချက်ကို စာဖတ်သူကလည်း အရေးကြီးသည်ဟု အလေးအနက် သဘောပေါက်လာအောင် ဖော်ပြနိုင်ခြင်းသည်လည်း ဝါကျဖွဲ့ပုံ တိတိကျကျရှိခြင်း ဖြစ်ပါသည်။

အကြောင်းအချင်းအရာ အတူတူပင်ဖြစ်သော်လည်း ဝါကျဖွဲ့ပုံကို လိုက်၍ အလေးပေးပုံ ကွာခြားမှုမျိုး ရှိတတ်ပါသည်။ သာဓက ပြပါမည်။

- မမ ဤစာအုပ်ကို ဝယ်လာသည်။

- ဤစာအုပ်ကို မမဝယ်လာသည်။

ဤဝါကျနှစ်ခုသည် အကြောင်းအရာလည်း အတူတူ ဖြစ်ပါသည်။ ပထမဝါကျသည် ဖွဲ့ရိုးဖွဲ့စဉ် ဝါကျပုံစံမျိုး ဖြစ်ပါသည်။ မမ (ကတ္တား)၊ ဤစာအုပ်ကို (ကံပုဒ်)၊ ဝယ်လာသည် (ကြိယာပုဒ်) ဟူသော အစီအစဉ်ဖြင့် ဖွဲ့ထားခြင်း ဖြစ်သည်။ ထို့ပြင် စာအုပ်ဝယ်လာသူသည် 'မမ' ဖြစ်သည် ဟူသော အချက်ကို ဦးဦးဖျားဖျား ဖော်ပြလိုသော သဘောပါပါသည်။

ဒုတိယဝါကျမှာမူ ဝယ်လာသည့်စာအုပ်ကို အလေးပေးဖော်ပြလိုသည့် သဘောရှိပါသည်။ မမဝယ်လာသော စာအုပ်မှာ အခြားစာအုပ်မဟုတ်ဘဲ ဤစာအုပ်ဖြစ်ကြောင်း အဓိက ဖော်ပြလိုသည့်အတွက် 'ဤစာအုပ်ကို' ဟူ၍ စကားစုကို ရှေ့ဆုံးကထားဖွဲ့သည်ဟု ဆိုနိုင်ပါသည်။ အလေးပေးလိုသည့် အချက်ကို အရင်ဆုံး၊ သတိရတတ်သည့် သဘာဝအရ အရင်ဆုံး ဖော်ပြသည့်သဘောဖြစ်ပါသည်။

အလေးပေးလိုသည့် အချက်ကို ဝါကျ၏ နောက်ဆုံးပိုင်းတွင် ထားတတ်ကြပါသည်။ မြန်မာဝါကျများသည် ကြိယာဖြင့် အဆုံးသတ်လေ့ရှိသည်။ ကြိယာကို ဖော်ပြမှ ဝါကျ၏ ဆိုလိုချက်ပြီးပြည့်စုံသည်။ ထင်ရှားသည်။ ထို့ကြောင့် ကြိယာသည် ဝါကျ၏ နောက်ဆုံးအပိုင်းလည်း ဖြစ်သည်။ အရေးအကြီးဆုံး အပိုင်းလည်း ဖြစ်သည်။ စာဖတ်သူသည် ဝါကျတစ်ကြောင်း ဆုံးအောင်ဖတ်လျှင် ကြိယာကို နောက်ဆုံးမှ ဖတ်ရခြင်း ဖြစ်သည့်အတွက် ကြိယာဖြင့် ဖော်ပြသောအချက်သည် စာဖတ်သူ၏ ရင်ထဲတွင် ပူပူနွေးနွေး ထင်ကျန်ရစ်တတ်သည်။ ထိုသဘောရ အလေးပေးလိုသော အချက်ကို ဝါကျ၏ နောက်ဆုံးပိုင်းတွင် ကြိယာနှင့် ဖော်ပြခြင်းဖြင့် လေးနက်ထင်ရှားလာနိုင်ပါသည်။ သာဓက ပြပါမည်။

-လယ်ထွန်နေသော ဤလယ်သမားကြီးသည် 'ကျန်းမာသန်စွမ်း'၏။

-ကျန်းမာသန်စွမ်းသော ဤလယ်သမားကြီးသည်‘လယ်ထွန်နေ’၏။

ဤဝါကျနှစ်ကြောင်းသည် အဓိပ္ပာယ်အတူတူ ဖြစ်သော်လည်း အလေးပေးမှုခြင်း မတူပါ။ ပထမဝါကျကို ဖတ်လိုက်လျှင် သူ ‘လယ်ထွန်နေ၏’ ဟူသော စကားရပ်က စာဖတ်သူ၏ စိတ်ထဲတွင် ပူပူနွေးနွေး စွဲထင်ကျန်ရစ်နိုင်ပါသည်။ သို့ဖြင့် ပထမဝါကျသည် ကျန်းမာသန်စွမ်းမှုကို အလေးပေးသောဝါကျ ဖြစ်ပါသည်။ ထို့အတူ -

‘မြမြသည် ရုပ်မချောသော်လည်း သဘောကောင်းသည်’ ဟူ၍ သဘောကောင်းခြင်းကို အလေးပေးရေးနိုင်သည့်နည်းတူ-

‘မြမြသည် သဘောကောင်းသော်လည်း ရုပ်မချော’ ဟူ၍ ရုပ်မချော ခြင်းကို အလေးပေး ရေးနိုင်ပါသည်။

ဤသို့ဖြင့် စကားသုံးနှုန်းရာတွင် လည်းကောင်း၊ ဝါကျဖွဲ့ရာတွင် လည်းကောင်း၊ စာရေးသူ၏ ဆိုလိုချက်ကို အလေးအပေါ့ အပျော့အမာပါ မကျန်အောင် ဖော်ပြနိုင်သည်ဆိုလျှင် တိတိကျကျ ရှိသည်ဟု ဆိုနိုင်ပါသည်။



## အခန်း (၇)

## ကျစ်ကျစ်လျစ်လျစ်

- အချို့သော လူတို့သည် အခက်အခဲ အတားအဆီးများနှင့် ကြုံတွေ့ရသောအခါ ထိုအခက်အခဲ အတားအဆီးများကို တွေ့တွေ့ဆိုင်ဆိုင် ရင်ဆိုင်ရန် ဝန်လေးခြင်း ဖြစ်တတ်ကြသည်။
- လူအချို့သည် အခက်အခဲကို ရင်ဆိုင်ရန် ဝန်လေးတတ်ကြသည်။

ဤဝါကျနှစ်ကြောင်းသည် အဓိပ္ပာယ်အတူတူ ဖြစ်သည်။

သို့သော် ပထမဝါကျသည် စကားကို စကားထပ်များဖြင့် ဖောင်းပွနေသော ဝါကျဖြစ်ပြီး ဒုတိယဝါကျမှာမူ စကားပို စကားထပ်မပါဘဲ ကျစ်ကျစ်လျစ်လျစ် ရေးထားသောဝါကျဖြစ်ကြောင်း အလွယ်တကူ သိနိုင်ပါသည်။

ကျစ်ကျစ်လျစ်လျစ် ရေးနိုင်လျှင် စာရေးသူရော စာဖတ်သူပါ အချိန်ကုန် သက်သာပါသည်။ ထို့ပြင် ယခုခေတ်ကဲ့သို့ သိစရာမှတ်စရာပေါများလှသောခေတ်မျိုး၊ အချိန်လု၍ အလုပ်လုပ်ရသော ခေတ်မျိုးတွင် စကားလုံးနည်းနည်းနှင့် အဓိပ္ပာယ်များများပါအောင် ရေးနိုင်မှ တန်က

ကျပါသည်။ ထို့ပြင် ကျစ်လျစ်မှုသည် ခေတ်က တောင်းဆိုနေသော အချက်လည်း ဖြစ်ပါသည်။

ကျစ်လျစ်မှုကို စကားအသုံးအနှုန်း ကျစ်လျစ်မှုနှင့် ဝါကျဖွဲ့ပုံ ကျစ်လျစ်မှုဟူ၍ နှစ်ပိုင်းခွဲကာ ဆွေးနွေးလိုပါသည်။

## (က) ဖောင်းပွနေသော စကားများ

စကားသုံးကျစ်လျစ်မှုရှိရန်အတွက် ဂရုပြုသင့်သောအချက်တစ်ချက်မှာ ဖောင်းပွနေသော စကားများကို ရှောင်ရန် ဖြစ်သည်။ တိုတိုပြော၍ ရနိုင်ပါလျက် စကားတံရှည်ကာ ကွေ့ဝိုက် လှည့်ပတ်သုံးသော စကားမျိုးကို ဆိုလိုပါသည်။

သာဓကပြရလျှင် 'မရှိ' ဟု တိုတိုသုံး၍ ရပါလျက် 'မရှိဟုဆိုက ဆိုနိုင်လေသည်။' ဟူ၍ အကြောင်းထူးမရှိဘဲ စကားတံရှည်ခြင်းမျိုး၊ 'ဤမြန်မာပြည်' ဟု ကျစ်ကျစ်လျစ်လျစ် သုံးနိုင်ပါလျက် 'မြန်မာလူမျိုးများ မှီတင်းနေထိုင်ရာ ဤတိုင်းပြည်' ဟု ဖောင်းဖောင်းပွပွ သုံးခြင်းမျိုး၊ 'အရှေ့အရပ်' ဟု သုံးလျှင်ပြီးပါလျက် 'အရှေ့တည်းဟူသောအရပ်'ဟူ၍ စကားတံရှည်သုံးခြင်းမျိုး၊ 'ရောက်ရှိသည်၊ ကျေးဇူးတင်သည်' ဟု သုံးလျှင် ပြီးနိုင်ပါလျက် 'ရောက်ရှိသည်၊ ကျေးဇူးတင်သည်' ဟူ၍ မလိုအပ်ဘဲ 'ရှိ' ထည့်သုံးခြင်းမျိုးတို့ကို ဆိုလိုပါသည်။ 'ပြောသည်'ဟု မသုံးဘဲ 'ပြောဆိုခြင်းပြုသည်'ဟု သုံးခြင်း၊ 'ထို့ကြောင့်' ဟု မသုံးဘဲ 'ထို့အတွက်ကြောင့်' ဟု သုံးခြင်းသည်လည်း စကားဖောင်းပွခြင်း ဖြစ်ပါသည်။

ထို့ပြင် 'ကျွန်တော့်ကိုမွေးသော ကျွန်တော့အမေ၊ ကျွန်တော့်ထက် ငယ်သော ကျွန်တော့်ညီမလေး၊ အတောင်နှစ်ဖက်ရှိသော ကျီးကန်း'

စသည်ဖြင့် မပါလျှင်လည်းဖြစ်သော နာမဝိသေသနများကို အကြောင်းထူးမရှိဘဲ ထည့်သုံးခြင်းမျိုး 'ခြေဖြင့်ကန်သည်၊ ပခုံးဖြင့်ထမ်းသည်၊ မျက်စိဖြင့်ကြည့်သည်' စသည်ဖြင့် မပါလျှင်လည်း ဖြစ်သော ကြိယာဝိသေသနများကို အကြောင်းထူးမရှိဘဲ ထည့်သုံးခြင်းမျိုးများ သည်လည်း စကားသုံးဖောင်းပွခြင်းပင်' ဖြစ်ပါသည်။

စကားသုံးဖောင်းပွခြင်းအတွက် စကားတစ်လုံးနှင့်ပြီးရမည့်နေရာတွင် သုံးလေးငါးလုံး သုံးနေရသဖြင့် စက္ကူလည်းကုန် မင်လည်းကုန် အချိန်လည်းကုန်ပါသည်။ ထို့ကြောင့် ထိုဖောင်းပွသော အသုံးအနှုန်းများကို ရှောင်ရန် လိုအပ်ပါသည်။ စကားတစ်လုံးနှင့် ပြီးရမည့်နေရာတွင် နှစ်လုံးမသုံးမိအောင် သတိပြုရန် လိုအပ်ပါသည်။

## (ခ) တွဲသုံးနေကျ စကားများ

စာရေးရာတွင် အဓိပ္ပာယ်တူသော စကားချင်း၊ အဓိပ္ပာယ်ဆက်စပ်သော စကားချင်း တွဲတွဲသုံးရာမှ အသားကျနေသသော စကားများ ရှိပါသည်။ ထိုစကားများသည်လည်း ကျစ်လျစ်မှု မရှိသော စကားများ ဖြစ်ပါသည်။

တွဲသုံးနေကျစကားများဆိုရာ၌ အလျှုဒါန၊ ဆင်းရဲဒုက္ခ၊ ရှေးပဝေဏီ၊ ဆွေမျိုးသားချင်း၊ ရစန်သံဃာ၊ ကျေးဇူးဥပကာရ၊ လုပ်ကိုင်ဆောင်ရွက် ကြံစည်တွေးတော၊ မှီတင်းနေထိုင်၊ ပေါင်းသင်းဆက်ဆံ၊ အများတကာ စသည့် စကားမျိုးတို့ကို ဆိုလိုပါသည်။ အဓိပ္ပာယ်လေးနက်အောင် ပြည့်စုံအောင် ဟူသော ရည်ရွယ်ချက်ဖြင့် တွဲသုံးခဲ့ကြပုံ ရပါသည်။ ကျစ်

လျစ်မှုရှုထောင့်က ကြည့်လျှင်မူ စကားတစ်လုံးနှင့် ပြီးရမည့်နေရာတွင် နှစ်လုံးသုံးလုံး သုံးနေရသည့်အတွက် ဖောင်းပွနေပါသည်။ 'အလှူလုပ်သည်' 'ဒါနပြုသည်' တစ်ခုခုသုံးလျှင် ပြီးပါလျက် 'အလှူဒါနပြုသည်' ဟု သုံးရန်လိုအပ်ပါသလော။ 'ရှေးက' ဟု သုံးလျှင် ပြည့်စုံပါလျက် 'ရှေး ပဝေဏီက' ဟု သုံးခြင်းဖြင့် မည်မျှပို၍ လေးနက်သွားပါသနည်း။ နေထိုင် သည်ဟုသုံး၍ရလျှင် 'မှီတင်းနေထိုင်သည်' ဟု သုံးရန် လိုအပ်ပါသလော။ တစ်လုံးတည်းပြီးရမည့် နေရာတွင် နှစ်လုံးသုံးလုံး တွဲသုံးသည့်အတွက် နှစ်ဆသုံးဆ ပိုလေးနက်သွားစရာ အကြောင်းရှိမည် မထင်ပါ၊ တွဲသုံးနေ သော စကားစုထဲတွင် အသိခက်သည့် စကားလုံးပါလာလျှင် နားလည်ရပင် ပိုခက်သွားနိုင်ပါသေးသည်။ 'စကားတစ်လုံးနှင့် ပြီးရမည့်နေရာတွင် နှစ်လုံးသုံးလုံးမသုံး' ဟူသော ခံယူချက်ဖြင့် သတိထား၍ သုံးမည်ဆို လျှင် ကျစ်ကျစ်လျစ်လျစ်ရှိရပါလိမ့်မည်။

ဝါကျဖွဲ့ပုံ ကျစ်လျစ်မှုနှင့် ပတ်သက်၍ ဆက်လက်ဆွေးနွေး လိုပါသည်။

## (ဂ) ဝါကျထဲက စကားဖောင်းပွမှု

စကားသုံးကျစ်လျစ်မှု အပိုင်းတွင် ပြခဲ့သည့်နည်းတူ ဝါကျဖွဲ့ရာ တွင်လည်း ကွေ့ဝိုက်လှည့်ပတ်ကာ စကားတံရှည်သည့်အတွက် စကား ဖောင်းပွမှု ဖြစ်တတ်ပါသည်။

'အမှန်တကယ် ဖော်ပြရမည်ဆိုလျှင် လယ်လုပ်ငန်းဖြင့် အသက် မွေးသော လယ်သမားများသည်ကား နိုင်ငံတော်၏ နိုင်ငံရေး၊ စီးပွားရေး၊

လူမှုရေး စသည့် အရေးကိစ္စများတွင် စီးပွားရေးဖွံ့ဖြိုးမှုကို အထောက်အကူ ပြုနေသူများ ဖြစ်သည်ဟု မလွဲမသွေ ဆိုနိုင်ပေသည်’

ဤဝါကျသည် စကားဖောင်းပွမှု ထင်ရှားအောင် တမင်ဖန်တီး ရေးပြသော ဝါကျဖြစ်သည်။ သို့သော် စကားဖောဖောသီသီသုံးပြီး ဤ ဝါကျမျိုး ရေးတတ်ကြသည်ကို တွေ့ရတတ်ပါသည်။ ဤဝါကျတွင် အဓိပ္ပာယ်တူ အကြောင်းမထူးလှသော စကားပို များနေပါသည်။ ‘အမှန် တကယ် ဖော်ပြရမည်ဆိုလျှင်’ ဟု အဘယ်ကြောင့် ရေးရသနည်း။ နောက်က ပြောသည့် စကားသည် အမှန်တကယ် ဖြစ်သည်ဆိုလျှင် ထိုစကားကို ထည့်ရန် လိုအပ်ပါသဘော။ ‘လယ်ယာလုပ်ငန်းဖြင့် အသက်မွေးသော’ ဟူသော နာမဝိသေသနကိုလည်း ထည့်စရာမလိုပါ။ ‘လယ်သမား’ ဆိုလျှင် လုံလောက်ပါပြီ။ ‘နိုင်ငံတော်၏ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး စသည့် အရေးကိစ္စများတွင်’ ဟူသော စကားစုမှာလည်း အပိုဖြစ်နေပါသည်။ ‘မလွဲမသွေ မှတ်ယူနိုင်ပေသည်’ ဟူသော စကားမှာလည်း မိမိပြောသည့် အချက်မှန်ပါသည်ဟု ထပ်မံသက်သေထူသည့် သဘောကလွဲ၍ အကြောင်း မထူးလှပါ။ ထိုစကားပိုများကိုဖယ်ပြီး ‘လယ်သမားများသည် နိုင်ငံတော် ၏ စီးပွားရေးဖွံ့ဖြိုးမှုကို အထောက်အကူပြုနေသူများ ဖြစ်သည်’ ဟု ရေး လျှင် ပို၍ ကျစ်ကျစ်လျစ်လျစ်ရှိပါသည်။ ပထမဝါကျနှင့်လည်း အဓိပ္ပာယ် တူပါသည်။ ထို့ကြောင့် ဝါကျဖွဲ့ရာတွင် အကြောင်းထူးမရှိဘဲ သုံးရိုးသုံးစဉ် ဖြစ်၍ သုံးရသော စကားမျိုး၊ ကွေ့ဝိုက်လှည့်ပတ်သော စကားမျိုးကို ရှောင်မည်ဆိုလျှင် ကျစ်လျစ်မှု ရှိပါလိမ့်မည်။

## (ဃ) ဝါကျထဲက စကားထပ်မှု

အဓိပ္ပာယ်တူညီနီးစပ်သော စကားများကို တွဲသုံးခြင်းဖြင့် စကားထပ်မှု ဖြစ်တတ်သကဲ့သို့ ဝါကျထဲတွင်လည်း အဓိပ္ပာယ်တူ စကားနှစ်လုံး မလိုအပ်ဘဲထည့်သုံးခြင်း၊ စကားတစ်လုံးကို မလိုအပ်ဘဲ နှစ်ခါထပ်သုံးခြင်းတို့ကြောင့် စကားထပ်မှု ဖြစ်တတ်ပါသည်။ ထိုသို့ စကားထပ်သော အခါ ထိုဝါကျသည် ကျစ်ကျစ်လျစ်လျစ် မရှိတော့ပါ။

ဤမိန်းမပျိုသည် မယဉ်ကျေးသော၊ ရိုင်းပြသောအပြုအမူ အကြိမ်ကြိမ် အဖန်ဖန်ပြုသည့်အတွက် ချီးကျူးစရာမဖြစ်ဘဲ ကဲ့ရဲ့စရာ ဖြစ်သွားရတော့သည်။

ဤဝါကျတွင် အဓိပ္ပာယ်တူစကားများကို မလိုအပ်ဘဲ နှစ်ခါထည့်သုံးထားသည်ကို တွေ့နိုင်ပါသည်။ 'မယဉ်ကျေးသော' နှင့် 'ရိုင်းပျသော' 'အကြိမ်ကြိမ်' နှင့် 'အဖန်ဖန်'၊ 'ချီးကျူးစရာမဖြစ်' နှင့် 'ကဲ့ရာစရာ' တို့သည် အဓိပ္ပာယ်တူ စကားများ ဖြစ်ပါသည်။ ထိုစကားများကို တစ်လုံးစီသာ ထည့်သုံးလျှင်လည်း ထိုအဓိပ္ပာယ်ပင် ရပါသည်။ ကြည့်ပါ။

- ဤမိန်းမပျိုသည် မယဉ်ကျေးသော အပြုအမူကို အကြိမ်ကြိမ် ပြုသည့်အတွက် ချီးကျူးစရာ မဖြစ်တော့ပေ။
- ဤမိန်းမပျိုသည် ရိုင်းပြသော အပြုအမူကို အဖန်ဖန်ပြုသည့်အတွက် ကဲ့ရဲ့စရာ ဖြစ်သွားရသည်။

ဤဝါကျနှစ်ကြောင်းစလုံး အဓိပ္ပာယ်အတူတူပင် ဖြစ်ပါသည်။ ကြိုက်ရာတစ်ကြောင်းသုံးလျှင် လုံလောက်ပါပြီ။ ထို့အတူ -

'စစ်တောင်းမြစ်သည် ရေစီးသန်သည်ဖြစ်ရာ ထိုသို့ ရေစီးသန်သည့်

အတွက် လှေသင်္ဘောများ သွားလာရာ၌ ထိုသို့သွားလာသော လှေသင်္ဘောများတွင် အန္တရာယ်ရှိပေသည်။' ဟူသော ဝါကျတွင် မလိုအပ်ဘဲ စကားများ နှစ်ခါထပ်နေကြောင်း တွေ့နိုင်ပါသည်။ ထပ်နေသောစကားများကို ဖယ်၍ -

'စစ်တောင်းမြစ်သည် ရေစီးသန်သည့်အတွက် သွားလာသော လှေသင်္ဘောများတွင် အန္တရာယ်ရှိပေသည်။' ရေးလျှင်လည်း ထိုအဓိပ္ပာယ်မျိုးပင် ရပါသည်။

စကားထပ်သည့်အကြောင်းကို ဖော်ပြရာ၌ 'မလိုအပ်ဘဲ' ဟု စကားခံခဲ့ပါသည်။ လိုအပ်၍ စကားထပ်ခြင်းမျိုးမှာမူ ကိစ္စမရှိပါ။ ဆိုပါစို့။

မယဉ်ကျေးခြင်းဟူသော ရိုင်းပြခြင်းပင်တည်း။ ဟူသော ဝါကျတွင် 'ရိုင်းပြခြင်း' ကို 'မယဉ်ကျေးခြင်း' ဟု အဓိပ္ပာယ်ဖွင့်နိုင်ပေသည်။

ဤဝါကျတွင် စကားတစ်လုံးကို အဓိပ္ပာယ်တူ စကားတစ်လုံးဖြင့် ဖွင့်ဆိုပြခြင်း ဖြစ်သည့်အတွက် အဓိပ္ပာယ်တူ၊ စကားတူစကားနှစ်လုံး မပါ၍ မဖြစ်ပါ။ လိုအပ်၍ စကားထပ်ခြင်း ဖြစ်ပါသည်။ ထို့အတူ -

"ဤဆေးကို နံနက် ၉ နာရီ တစ်ကြိမ်၊ မွန်းလွဲ ၃ နာရီ တစ်ကြိမ် တိုက်ပါ"

ဤဝါကျတွင် 'တစ်ကြိမ်' ဟူသော စကား နှစ်ခါထပ်ခြင်းမှာ လိုအပ်၍ ထပ်ခြင်းဖြစ်ပါသည်။ ဆေးတိုက်ရမည့် အကြိမ်များကို 'တစ်ကြိမ်' စီ ဖော်ပြရန်လိုအပ်သောကြောင့် ဖြစ်ပါသည်။

ဤမျှဆိုလျှင် ဝါကျထဲတွင် မလိုအပ်ဘဲ စကားထပ်မှုသည် ဝါကျကို ဖောင်းပွစေကြောင်း သိသာလောက်ပါပြီ။

စကားပြေ ကျစ်ကျစ်လျစ်လျစ်ရှိရန် စကားသုံး ကျစ်လျစ်ဖို့လည်း လိုပါသည်။ ဝါကျဖွဲ့ကျစ်လျစ်ဖို့လည်း လိုပါသည်။ ထိုသို့ ကျစ်လျစ်ရန်မှာလည်း စကားဖွားခြင်း၊ စကားထပ်ခြင်းများကို ရှောင်မှ ဖြစ်ပါလိမ့်မည်။

'စင်စစ်သော်ကား တကယ်စာရေးကောင်းသော ပုဂ္ဂိုလ်တို့သည် ကျွန်တော်တို့ ဆယ်လုံးရေးမှသာ အဓိပ္ပာယ်ရေးရေးထင်သော အရာကို စာတစ်လုံးတည်းဖြင့် ထင်းခနဲ အဓိပ္ပာယ်ပေါ်အောင် ရေးတတ်ကြသည်သာဖြစ်၏။' ဟူသော ဆရာမောင်ထင်၏ အဆိုအမိန့်အတိုင်း စကားလုံးနည်းနည်းနှင့် အဓိပ္ပာယ်ပေါ်အောင် ရေးနိုင်လျှင် ကျစ်ကျစ်လျစ်လျစ် ရှိသည်ဟု ဆိုရပါလိမ့်မည်။



၁။ မောင်ထင်၊ စာရေးလိုသော် အတွေးနှင့်အရေး၊ ၁၉၆၆ ဇန်နဝါရီ၊ စာ၊ ၉၈။

## အခန်း (၈)

# ပြေပြေပြစ်ပြစ်

ပြေပြေပြစ်ပြစ်ရှိသော စကားပြေဆိုသည်မှာ ဖတ်လိုက်လျှင် အထစ်အငေါ့ မရှိဘဲ စာရေးသူ၏ ဆိုလိုချက်များ၊ စာဖတ်သူ၏ စိတ်အာရုံ ထဲသို့ ချောချောမွေ့မွေ့ ဝင်သွားသော စကားပြေမျိုးကို ဆိုလိုပါသည်။ ထိုစကာပြေမျိုးသည် မပင်မပန်း သာသာကလေးဖတ်ရုံနှင့် အဓိပ္ပာယ် ကိုအလွယ်တကူ နားလည်စေနိုင်သည့် အစွမ်းသတ္တိရှိပါသည်။ ထိုအစွမ်း သတိမျိုး ကင်းမဲ့သော စာမျိုးနှင့်ပတ်သက်၍မူ-

> "ဂုင်းအင်္ဂါနှင့် မပြည့်စုံသော စာမျိုးကို ဖတ်ရသည့်အခါ သမံ တလင်းပေါ်တွင် သဲဖြူးပြီး သတ္တုအိုးဖင်နှင့် ပွတ်သော အသံကဲ့သို့ ကျွန်ုပ်၏ နားထဲ၌ အခံရခက်လှသည်"

ဟူ၍ ဆရာကြီးရွှေဥဒေါင်းက ကွင်းကွင်းကွက်ကွက် မှတ်ချက်ချဖူး ပါသည်။

ပြေပြေပြစ်ပြစ်ရှိမှု ဆိုရာ၌ စကားသုံးပုံ ပြေပြစ်ရန်လည်း လိုပါ သည်။ ဝါကျဖွဲ့ထုံး ပြေပြစ်ရန်လည်း လိုပါသည်။ စကားသုံးပုံ ပြေပြစ်မှုနှင့် ပတ်သက်၍ ပထမ ဆွေးနွေးပါမည်။

---

၁။ ရွှေဥဒေါင်း၊ တသက်တာမှတ်တမ်းနှင့် အတွေးအခေါ်များ၊ စာ၊ ၆၇၉၈၀။

## (က) အသံတူအသံထပ်စကားများ

အသံတူများကို နီးနီးကပ်ကပ် ထပ်ကာထပ်ကာ ရွတ်ဆိုလာလျှင် နားဝင်ချိုမြဲဖြစ်ပါသည်။ ထိုသဘောအရ အသံတူချင်း နီးနီးကပ်ကပ်ထားသော စကားများ၊ အသံတစ်သံကို နှစ်ခါသုံးခါ ထပ်ထားသော စကားများသည် ပြေပြစ်မှုကို များစွာအထောက်အကူ ပြုပါသည်။

မြန်မာစကားထဲတွင် သံတူသံထပ် စကားများစွာ ရှိပါသည်။ ပုံစံအားဖြင့် 'ကာကွယ်၊ ခက်ခဲ၊ စဉ်းစား၊ တောတောင်၊ နစ်နာ၊ ပျော်ပါး' စသည့် စကားများသည် 'က'ချင်း၊ 'ခ'ချင်း စသည်ဖြင့် ဗျည်းသံတူချင်း နီးနီးကပ်ကပ်ရှိသည့် စကားများ ဖြစ်ပါသည်။ တစ်ဖန် 'ကန့်လန့်၊ ကားရား၊ ပေါ်လော၊ ပက်လက်' စသည့် စကားများသည် 'ကန့်နှင့်လန့်'၊ 'ကားနှင့်ရား' စသည်ဖြင့် သရသံတူချင်း နီးနီးကပ်ကပ်ထားသည့်စကားများ ဖြစ်ပါသည်။ တစ်ဖန် 'ဖြူတူတူ၊ နီတီတီ၊ စီရီရီ၊ ဆင့်ရင့်ရင့်' စသည့် စကားများသည်လည်း ဗျည်းသံတူချင်းရော၊ သရသံတူချင်းပါ နီးနီးကပ်ကပ်ထားသည့် စကားများ ဖြစ်ပါသည်။

တစ်ဖန် စကားလုံးကို နှစ်ခါထပ် လေးခါထပ်သုံးသည့် အလေ့ရှိသည့်အတွက် ချိုသာပြေပြစ်သော အသံထပ်စကားများ ဖြစ်ပေါ်လာရပါသည်။ ပုံစံအားဖြင့် "နီနီ၊ ရဲရဲ၊ နီးနီး၊ ဝေးဝေး၊ ဖြူဖြူ၊ ဝါဝါ" စသည်ဖြင့် နှစ်သံတွဲစကားများ၊ 'ရှင်းရှင်းလင်းလင်း၊ ပြေပြေပြစ်ပြစ်၊ စည်းစည်းလုံးလုံး၊ ညီညီညွတ်ညွတ်၊ ပျော်ပျော်ပါးပါး၊ သစ်သစ်လွင်လွင်၊ ချစ်ရေးချစ်ရာ၊ သာမှုနာမှု၊ ပြောလိုက်ဆိုလိုက်၊ မည်သူ မည်ဝါ' စသည်ဖြင့် သံတွဲစကားများတွင် အသံတူများ ထပ်ထားသည့်အတွက် ရွတ်ဆိုသည့်အခါ ချိုသာပြေပြစ်မှုရှိကြောင်း တွေ့နိုင်ပါသည်။ ထိုအသံတူ

အသံထပ်များကို သူ့နေရာနှင့်သူ အဆင်ပြေပြေ အကွက်ကျကျ သုံးခြင်းသည်ပင်လျှင် စကားသုံးပြေပြေပြစ်ပြစ်ရှိခြင်း ဖြစ်ပါသည်။

## (ခ) ဝါကျထဲက ပုံစံတူစကားများ

တိတိကျကျအခန်း၊ ဝါကျထဲက တန်းတူရည်တူ အချက်အလက်များဟူသောကဏ္ဍ၌ တန်းတူရည်တူ အချက်အလက်များကို ဝါကျထဲတွင် **ပုံစံတူစကားစုများဖြင့် ဖော်ပြသည့်အကြောင်း တင်ပြခဲ့ပြီးဖြစ်ပါသည်။** ထိုပုံစံတူ စကားစုများသည် ဝါကျကို ပြေပြေပြစ်ပြစ် ဖြစ်အောင်လည်း အထောက်အကူပြုပါသည်။ ထိုအခန်းတွင် ဖော်ပြခဲ့သော-

> "အောင်မြင်သော အသံရှင်ဆရာသည် အသက်ဝင်အောင် ပြောဆိုလျက် ရှင်းရှင်းလင်းလင်း သင်ပြသည်ကို အမြဲသတိရနေပါသည်။"

ဟု ရောရောထွေးထွေးဖွဲ့သော ဝါကျနှင့် -

> ဆရာ၏ အောင်မြင်သောအသံ၊ အသက်ဝင်သော ပြောဟန်၊
> ရှင်းလင်းသောအသင်အပြတို့ကို အမြဲသတိရနေပါသည်။

ဟု ပုံစံတူစကားများဖြင့် ရေးဖွဲ့သောဝါကျကို ယှဉ်ဖတ်ကြည့်လျှင် မည်သည့်ဝါကျက ပြေပြေပြစ်ပြစ်ရှိကြောင်း သိနိုင်ပါလိမ့်မည်။ ထိုအခန်းတွင် ပြခဲ့သော ပုံစံတူစကားများ၌ ဖွဲ့ထားသည့် ဝါကျအားလုံးကို ပြေပြေပြစ်ပြစ်ရှိသော ဝါကျများအဖြစ် လေ့လာချင်ပါသည်။

ထိုဝါကျများတွင် ပုံစံတူစကားစုများနှင့် နှစ်ကျော့ သုံးကျော့ထပ်ပြီး ပါမြဲဖြစ်သဖြင့် စာဖတ်သူကို နားစွဲစေသည့်အပြင် ချိုသာပြေပြစ်မှုလည်း ဖြစ်စေပါသည်။

သို့ဖြင့် တန်းတူရည်တူ အရေးပါသော အချက်အလက်မျိုး ဖော်ပြရန် အခွင့်ကြုံသည့်အခါတိုင်း ပုံစံတူများဖြင့် ပြေပြေပြစ်ပြစ်ရှိသော ဝါကျများကို ရေးဖွဲ့နိုင်ပါသည်။

## (ဂ) ဝါကျ၏ အသံပြေပြစ်မှုနှင့် အဓိပ္ပာယ်ပြေပြစ်မှု

ဝါကျတစ်ကြောင်းကို ဖတ်လိုက်ရုံနှင့် စာဖတ်သူ၏ စိတ်အာရုံထဲသို့ သာသာကလေး ချောချောမွေ့မွေ့ ဝင်သွားပြီး အဓိပ္ပာယ်ကိုလည်း လွယ်လွယ်ကူကူ နားလည်နိုင်သည်ဆိုလျှင် ထိုဝါကျသည် အသံပြေပြစ်မှုရော၊ အဓိပ္ပာယ်ပြေပြစ်မှုပါ ရှိသည်ဟု ဆိုရပါလိမ့်မည်။

အသံပြေပြစ်မှုဆိုရာ၌ ရှေ့တွင်ဖော်ပြခဲ့သည့်အတိုင်း ပုံစံတူစကားစုများဖြင့် ပြေပြစ်မှုရှိအောင် ပြုလုပ်နိုင်သည့်အပြင် နားဝင်မချောသော အသုံးအနှုန်းများကို ရှောင်ခြင်းဖြင့်လည်း ပြေပြစ်မှုရှိအောင် ပြုလုပ်နိုင်ပါသည်။ ဆိုပါစို့-

> "စက်ရုံလုပ်သားကြီး ဦးမဲခေါင်းဆောင်သော လျင်မြန်စွာ လည်ပတ်နေသော စက်ကြီးများကို လေ့လာခဲ့သော အဖွဲ့က အတွေ့အကြုံများကို တင်ပြပါလိမ့်မည်"

ဤဝါကျသည် စာဖတ်သူ၏ နားထဲသို့ လျောခနဲ ပြေပြေပြစ်ပြစ် ဝင်သွားသော ဝါကျမဟုတ်ကြောင်း သိပါလိမ့်မည်။ မပြေပြစ်ခြင်းမှာ 'သော' သုံးလုံးဆက်သုံးပုံ နေရာမကျသောကြောင့်လည်း ဖြစ်ပါသည်။ 'ခေါင်းဆောင်သော' နှင့် 'လျင်မြန်စွာ' ကို မဆီလျော်ဘဲ ပူးကပ်ထားသောကြောင့်လည်း ဖြစ်ပါသည်။ အသံမပြေပြစ်သည့်အပြင် အဓိပ္ပာယ်ထင်းခနဲ မပေါ်သည့်အတွက် အဓိပ္ပာယ်လည်း မပြေပြစ်ဟု ဆိုရပါမည်။ ထိုသို့မရေးဘဲ-

"စက်ရုံလုပ်သားကြီး ဦးမဲ ခေါင်းဆောင်သော လေ့လာရေးအဖွဲ့
သည် လျှင်မြန်စွာလည်ပတ်နေသော စက်ကြီးများကို လေ့လာခဲ့ပြီး
ဖြစ်၍ ထိုအတွေ့အကြုံများကို တင်ပြပါလိမ့်မည်။

ဟု ရေးလျှင် အသံလည်း မတောင့်တောဘဲ အဓိပ္ပာယ်လည်း ထင်းခနဲ ပေါ်လွင်သွားနိုင်ပါသည်။

အဓိပ္ပာယ်ပြေပြစ်မှုဆိုရာ၌ 'ရှင်းရှင်းလင်းလင်း' အခန်းတွင် တင်ပြခဲ့သည့်အတိုင်း ကပ်ထားသင့်သောပုဒ်ချင်း နီးနီးကပ်ကပ်ထားခြင်း၊ စကားတစ်ခုနှင့်တစ်ခု အဆက်အစပ် မရှုပ်အောင် ဂရုပြုခြင်းဖြင့် ဆိုလိုသည့် အဓိပ္ပာယ်ကို စာဖတ်သူ အလိုက်သင့် နားလည်သွားမည်ဆိုလျှင် ပြေပြေပြစ်ပြစ်ရှိသည်ဟု ဆိုရပါလိမ့်မည်။

စကားသုံးပုံ ဝါကျဖွဲ့ပုံ ပြေပြေပြစ်ပြစ်ရှိမရှိ 'နား'ဖြင့် စစ်ဆေးနိုင်သည်ဟု ပညာရှင်တို့ ဆိုကြပါသည်။ စာတစ်ပုဒ်ကို အသံထွက်ဖတ်ပြီး နားထောင်ကြည့်ပါ။ နားထဲသို့ ချောချောမောမော ဝင်သွားလျှင် ပြေပြေပြစ်ပြစ်ရှိသည်မှာ သေချာပါသည်။ နားထဲသို့ ချောချောမောမော မဝင်ဘဲ ဟိုထောင့်သည်ထောင့် ဖြစ်နေလျှင်မူ တစ်နေရာရာတွင် ချွတ်ယွင်းချက်ရှိနေပြီဟု နားလည်နိုင်ပါသည်။ မပြေပြစ်သောနေရာကိုရှာပြီး ပြုပြင်ရန်သာ ရှိပါတော့သည်။

စကားပြေအဖွဲ့တစ်ခုသည် ယခုဆွေးနွေးခဲ့သည့် လိုအပ်ချက်များနှင့် ပြည့်စုံမည်ဆိုလျှင် ပြေပြေပြစ်ပြစ် ရှိသည်ဟု ဆိုနိုင်ပါပြီ။



## အခန်း (၉)

# လိုက်ဖက်ညီညီ

စာရေးသည် ဆိုရာ၌ နှစ်ရှည်နှစ်တို စီးပွားရေးစီမံကိန်းအကြောင်းကဲ့သို့ လေးလေးနက်နက် အကြောင်းအရာမျိုးကိုရေးရန် အကြောင်းဆုံတတ်သည့်နည်းတူ၊ ပျော်ပွဲစား ထွက်ခြင်းအကြောင်းကဲ့သို့ ပေါ့ပေါ့ပါးပါး အကြောင်းအရာမျိုးကို ရေးရန်လည်း အကြောင်းဆုံတတ်ပါသည်။ မိမိနှင့် မရင်းနှီးသော မိမိထက် ရာထူးအဆင့်မြင့်သော စာဖတ်သူအတွက် ရည်ရွယ်သည့် ကွင်းဆက်လေ့လာရေး အစီရင်ခံစာကဲ့သို့သော စာမျိုးကို ရေးရန်အကြောင်းဆုံတတ်သည့်နည်းတူ မိမိနှင့် ခင်မင်ရင်းနှီးလာသော တန်းတူရည်တူဖြစ်သော သူငယ်ချင်း မိတ်ဆွေ စာဖတ်သူအတွက် ရည်ရွယ်သည့် သူငယ်ချင်းထံ ပေးစာကဲ့သို့သော စာမျိုးကို ရေးရန်လည်း အကြောင်းဆုံတတ်ပါသည်။ စပါး အထူးအထွက်တိုးအောင် စိုက်ပျိုးနည်းကဲ့သို့ မှတ်သားစရာများပါသည့် စာမျိုး ရေးရန်အကြောင်းဆုံတတ်သည့်နည်းတူ၊ စက်ရုံထဲက ဟာသများထဲသို့ ရယ်မောပျော်ရွှင်ကြည်စရာများ ပါသည့် စာမျိုးရေးရန်လည်း အကြောင်းဆုံတတ်ပါသည်။ ထိုအခါမျိုးတွင် မိမိရေးသောစာသည် သူ့နေရာနှင့်သူ လိုက်ဖက်ညီညွတ်မှုရှိရန်

လိုအပ်ပါသည်။ လိုက်ဖက်သည်ဆိုရာ၌ စကားအသုံးအနှုန်းလိုက်ဖက်မှု ဝါကျဖွဲ့စည်းလိုက်ဖက်မှုတို့ကို ဆိုပါသည်။ လိုက်ဖက်မှုသဘော ထင်ရှားအောင် သာဓကပုံစံများဖြင့် ဆွေးနွေးပါမည်။

## (က) အကြောင်းအရာနှင့် လိုက်ဖက်မှု

ဘာသာရေးအကြောင်းရေးသည့် စာမျိုးတွင် 'ကိလေသာ၊ တဏှာ၊ မဂ်ဖိုလ်၊ နိဗ္ဗာန်၊ သံသရာ' စသည့် စကားများ ပါဝင်မည်သာ ဖြစ်ပါသည်။ နိုင်ငံရေးအကြောင်း ရေးသည့်စာမျိုးတွင် 'ဝါဒ၊ စနစ်၊ ပဋိပက္ခ၊ ဝိရောဓိ၊ လူတန်းစား၊ အရင်းရှင်၊ အရင်းမဲ့ပြည်သူ' စသည့် စကားများ ပါဝင်မည်သာ ဖြစ်ပါသည်။ ဘာသာရေးအကြောင်း၊ နိုင်ငံရေး အကြောင်းတို့သည် လေးနက်သော အကြောင်းအရာမျိုး ဖြစ်သည့်အလျောက် လေးနက်ခန့်ညားသော စကားများသုံးမှ လိုက်ဖက်ဆီလျော်ပါလိမ့်မည်။ ဖော်ပြသော စကားများသည် အကောင်အထည်မဲ့ သဘောတရားများကို ဖော်ပြသောစကားများ၊ ခြုံငုံဖော်ပြသောစကားများ၊ စာသုံးပေသုံးစကားများ ဖြစ်သည့်အတွက် လေးနက်ခန့်ညားသော အငွေ့အသက်ပါသည်ဟု အများက လက်ခံထားကြပါသည်။ ထို့ကြောင့် ထိုအကြောင်း အရာများကို ထိုစကားများဖြင့် ရေးသားခြင်းသည် လိုက်ဖက်ဆီလျော်သည်ဟု ဆိုနိုင်ပါသည်။

ထို့အတူ လယ်လုပ်ငန်းအကြောင်းရေးသော စာမျိုးတွင် 'ထွန်၊ ထယ်၊ ကန်သင်း၊ တလင်း၊ ကောက်သင်း၊ တမန်း၊ သီးထပ်၊ သီးညှပ်၊ အထွက်တိုး' စသည့် လယ်ယာသုံးစကားများ ပါဝင်မည်သာ ဖြစ်သည်။ ဘောလုံးပွဲအကြောင်း ရေးသော စာမျိုးတွင် 'ဂိုး၊ ဘယ်အစွန်လူ၊ ညာအတွင်းလူ၊ လူကျွံဘော၊ ထောင့်ကန်ဘော' စသည့် ဘောလုံးပွဲသုံး

စကားများပါဝင်မည်သာ ဖြစ်ပါသည်။ လယ်ယာလုပ်ငန်းအကြောင်း၊ ဘောလုံးပွဲ အကြောင်းတို့သည် မြင်လွယ် ထင်လွယ်သော အကြောင်း အရာမျိုး ဖြစ်သည့်အလျောက် မြင်လွယ်ထင်လွယ်သော စကားများသုံးမှ လိုက်ဖက်ဆီလျော်ပါလိမ့်မည်။ ဖော်ပြပါ စကားများသည် အကောင် အထည်ကို ဖော်ပြသော စကားများ၊ သီးသန့်ပိုင်းခြားဖော်ပြသော စကား များ၊ နေ့စဉ်သုံးစကားများဖြစ်၍ ထင်လွယ်မြင်လွယ်ပါသည်။ ထို့ကြောင့် ထိုအကြောင်းအရာများကို ထိုစကားများဖြင့် ရေးသားခြင်းသည် လိုက်ဖက် ဆီလျော်သည်ဟု ဆိုနိုင်ပါသည်။

'အကုသိုလ်တရားတို့ကို ထိန်လန့်သော သံသောဉာဏ်ကိုရရှိ၍ ထိုသံသောဉာဏ်ကို အရင်းပြုပြီး သုဂတိဘဝတို့၌သာ ကျက်စားနိုင်ကြ ရန် အားထုတ်သင့်ကြပေသည်။' ဟူသော ဝါကျသည် လေးနက်သော ဘာသာရေးအကြောင်းကို လေးနက်သော စကားများဖြင့် ခန့်ခန့်ညားညား ဖွဲ့သောဝါကျမျိုး ဖြစ်သကဲ့သို့ 'ကလေးများသည် ပြေးလိုက်လွှားလိုက် ခုန်လိုက်ပေါက်လိုက် အော်လိုက်ဟစ်လိုက်နှင့် ပျော်ပျော်ရွှင်ရွှင် ကစား နေကြ၏။' ဟူသော ဝါကျသည်လည်း သွက်လက်လှုပ်ရှား ကစားနေပုံကို သွက်လက်သော စကားများဖြင့် ပေါ့ပေါ့ပါးပါး ဖွဲ့သောဝါကျမျိုးဖြစ်ကြောင်း တွေ့ရပါသည်။

ထို့ပြင် ပြီးခဲ့သော အခန်းများတွင် တင်ပြခဲ့သည့်အတိုင်း တန်း တူရည်တူ အရေးပါသော အချက်အလက်များကို ဝါကျအတွင်း ပုံစံတူ စကားစုများဖြင့် ဖော်ပြခြင်း၊ အရေးပါသော အချက်အလက်ကို အရေး ပါမှုထင်ရှားအောင် ဝါကျ၏ရှေ့ဆုံးအပိုင်း သို့မဟုတ် နောက်ဆုံးအပိုင်း တွင် ဖော်ပြခြင်းအားဖြင့် အကြောင်းအရာ၌ ဝါကျဖွဲ့ပုံလိုက်ဖက်ညီ ညွတ်အောင် ပြုလုပ်နိုင်ပေမည်။

## (ခ) စာဖတ်သူနှင့် လိုက်ဖက်မှု

စာဖတ်သူတို့သည် အသက်အရွယ် ပညာအဆင့်အတန်း ရာထူးအဆင့်အတန်း စသည်ဖြင့် အမျိုးမျိုးကွဲပြားနိုင်ပါသည်။ စာရေးရာတွင် မိမိရည်ရွယ်သော စာဖတ်သူနှင့် လိုက်ဖက်ညီညွတ်ရန် လိုအပ်ပါသည်။

ဆိုပါစို့၊ မြန်မာ့ပန်းချီပညာအကြောင်း၊ မူလတန်းကျောင်းသားဖတ်ရန်ရေးသောစာနှင့် ပညာရှင်များဖတ်ရန် ရေးသောစာတို့၊ စကားသုံးပုံချင်း၊ ဝါကျဖွဲ့ပုံချင်း တူနိုင်မည်မဟုတ်ပါ။ မူလတန်းကျောင်းသားအတွက် ရေးသောစာတွင် လူငယ်များ နားလည်ရခက်သည့် ပန်းချီပညာဆိုင်ရာ အသုံးအနှုန်းများကို ရှောင်ပြီး နားလည်လွယ်သော အသုံးအနှုန်းများ၊ လှုပ်ရှားသောဝါကျများကို လိုက်ဖက်ဆီလျော်စွာ သုံးနိုင်ပါသည်။

ဝါကျဖွဲ့ရာတွင် ထို့အတူပင်ဖြစ်၏။ အလွယ်တကူနားလည်နိုင်သောဝါကျဖွဲ့ပုံမျိုး ဖြစ်သင့်ပါသည်။ ပညာရှင်များအတွက် ရေးသောစာတွင် ပညာရပ်ဆိုင်ရာ အသုံးအနှုန်းများ၊ လှုပ်ရှားသော ဝါကျများကို လိုက်ဖက်ဆီလျော်စွာ သုံးနိုင်ပါသည်။

ထို့အတူ ကိစ္စတစ်ရပ်ကို အထက်လူကြီးအတွက် ရည်ရွယ်လျှင် 'တင်ပြပါသည်၊ အစီရင်ခံပါသည်' တန်းတူရည်တူများအတွက် ရည်ရွယ်လျှင် 'မေတ္တာရပ်ခံပါသည်၊ သိစေအပ်ပါသည်' လက်အောက်ငယ်သားများအတွက် ရည်ရွယ်လျှင် 'သတိပေးပါသည်၊ တာဝန်ချထားလိုက်သည်' စသည်ဖြင့် အသုံးအနှုန်း လိုက်ဖက်ညီညွတ်စွာ သုံးသင့်ပါသည်။

ထို့အတူ အလုပ်လျှောက်သည့်စာနှင့် သူငယ်ချင်းထံပေးစာသည်လည်း ရည်ရွယ်သည့် စာဖတ်သူကိုလိုက်၍ စကားသုံးပုံချင်း၊ ဝါကျဖွဲ့ပုံချင်း ကွာခြားသွားနိုင်ပါသည်။ အလုပ်လျှောက်သည့်စာတွင် တည်ငြိမ် ခန့်ညားသော စကားအသုံးအနှုန်း၊ ဝါကျဖွဲ့ပုံမျိုး ပါဝင်မည်ဖြစ်သော်လည်း

သူငယ်ချင်းထံပေးစာတွင်မူ ရင်းရင်းနှီးနှီးသုံးသော အပြောစကားများ၊ ပေါ့ပါးသွက်လက်သော ဝါကျဖွဲ့ပုံများ ပါဝင်မည် ဖြစ်ပါသည်။

'ကျွန်တော်၏အိမ်သို့ ယနေ့ညနေကြွရောက်ပြီး ညစာသုံးဆောင်ပါရန် လေးစားစွာ ပန်ကြားအပ်ပါသည်' ဟူ၍ မိမိကြည်ညိုလေးစားသော အထက်လူကြီးတစ်ဦးအား လေးလေးစားစား ဖိတ်ခေါ်နိုင်သကဲ့သို့ 'ငါ့အိမ်ကို ဒီညနေလာပြီး ညစာစားပါ' ဟူ၍ သူငယ်ချင်းအား ရင်းရင်းနှီးနှီး ဖိတ်ခေါ်နိုင်ပါသည်။ ဝါကျနှစ်ခုစလုံးသည် ဆိုင်ရာ စာဖတ်သူနှင့် လိုက်ဖက်ဆီလျော်သည်ချည်း ဖြစ်ပါသည်။

## (ဂ) ရည်ရွယ်ချက်နှင့် လိုက်ဖက်မှု

စာရေးရာတွင် မည်သည့်ရည်ရွယ်ချက်ဖြင့် ရေးပါသနည်း။ စာဖတ်သူကို သိစရာ မှတ်စရာ ဗဟုသုတများ၊ အချက်အလက်များ သိစေ မှတ်စေလိုသော ရည်ရွယ်ချက်ဖြင့် ရေးပါက ထိုအချက်အလက်များကို ဖော်ပြသော ကိန်းဂဏန်းများ၊ သက္ကရာဇ်များ၊ နာမည်များ၊ မှတ်သားစရာ အချက်အလက်ပြစကားများကို များများသုံးရမည် ဖြစ်ပါသည်။ စာဖတ်သူ စိတ်တွင် ချစ်ခြင်း၊ သနားခြင်း၊ ကြည်နူးခြင်း စသည့် ခံစားမှုများ နိုးကြားစေပြီး နှစ်သက်မှုဖြစ်စေလိုသော ရည်ရွယ်ချက်ဖြင့် ရေးပါက နှစ်သက်မှုကို ဖြစ်စေနိုင်သည့် သွင်ပြင်လက္ခဏာများကို ဖော်ပြသည့် စကားများကို များများသုံးရမည် ဖြစ်ပါသည်။ ဝါကျဖွဲ့ရာတွင်လည်း ထို့အတူပင် သိစရာ၊ မှတ်စရာ ဖော်ပြသော ဝါကျများသည် အချက်အလက်များ ပြည့်နှက်ပြီးနေတတ်သည်။ နှစ်သက်မှုဖြစ်စေသော သွင်ပြင်မူရာကို ဖော်ပြသော ဝါကျများမှာမူ နှစ်သက်ဖွယ်ဖြစ်အောင်၊ ဖတ်ကောင်းအောင် ဖွဲ့ထားသည့်အလျောက် ပေါ့ပေါ့ပါးပါး သွက်သွက်လက်လက်

ရှိနေတတ်ပါသည်။

ထို့ကြောင့် သိစရာမှတ်စရာ ဖော်ပြသော စာမျိုးတွင် ကိန်းဂဏန်းများ၊ သင်္ကေတဇ်များ၊ အချက်အလက်များကို တိတိကျကျဖော်ပြသော စကားများ၊ ခံစားမှု မထင်ဟပ်သော စကားများ ပါလေ့ရှိပြီး ဝါကျဖွဲ့ပုံမှာလည်း ရိုးရိုးစင်းစင်း ရှိတတ်ပါသည်။ နှစ်သက်မှု ဖြစ်စေသော သွင်ပြင်လက္ခဏာများကို ဖော်ပြသောစာမျိုးတွင် အကောင်အထည်ပြစကားများ၊ သီးသန့်ပိုင်းခြားဖော်ပြသော စကားများ၊ ခံစားမှုထင်ဟပ်သော စကားများ ပါလေ့ရှိပြီး ဝါကျဖွဲ့ပုံ သွက်သွက်လက်လက် ရှိတတ်ပါသည်။ ပုံစံတူ စကားစုများနှင့် ဖော်ပြသော ဝါကျများ၊ အလေးပေးလိုသော အချက်ကို ထင်ရှားအောင် ဖော်ပြသော ဝါကျများ ဖြစ်တတ်ပါသည်။ ဆိုပါစို့ -

'ရွှေတိဂုံစေတီတော်သည် ဉာဏ်တော် ၃၂၆ ပေ မြင့်၏။' ဟူ၍ စေတီတော်၏ အမြင့်ပမာဏကို အသိပေးလိုသော ရည်ရွယ်ချက်ဖြင့် ဖော်ပြနိုင်သကဲ့သို့ ရွှေတိဂုံစေတီတော်ကြီးသည် ရွှေလုံးရွှေစိုင်ကြီး အစို့ပေါက်နေသည့်အလား မြင့်မြင့်မားမား တင့်တင့်တယ်တယ် စံပယ်တော်မူလျက်ရှိပေသည်' ဟူ၍ စေတီတော်၏ အမြင့်ပမာဏကို အံ့သြကြည်ညိုသော ခံစားမှု ပေါ်ပေါက်စေလိုသော ရည်ရွယ်ချက်ဖြင့် ဖော်ပြနိုင်ပါသည်။ စကားသုံးပုံ၊ ဝါကျဖွဲ့ပုံ သူ့ရည်ရွယ်ချက်နှင့် သူလိုက်ဖက်သည့် နည်းဖြစ်သည်။

ဤသို့ရေးသည့် အကြောင်းအရာ ရည်ရွယ်သည့် စာဖတ်သူ၊ ရေးသည့် ရည်ရွယ်ချက်တို့နှင့် အလေးပေးအချိန်အချက် လိုက်ဖက်သော စကားသုံးပုံ၊ ဝါကျဖွဲ့ပုံမျိုး ဖြစ်သည်ဆိုလျှင် လိုက်ဖက်ညီညွတ်သည်ဟု ဆိုနိုင်ပါသည်။

□

# နိဂုံး

စကားပြေရေးရာတွင် စကားပြေကောင်း၏ အခြေခံလက္ခဏာများဖြစ်သော (၁) မှန်ကန်မှု (၂) ရှင်းလင်းမှု (၃) တိကျမှု (၄) ကျစ်လျစ်မှု (၅) ပြေပြစ်မှု (၆) လိုက်ဖက်မှုတို့နှင့် ညီညွတ်အောင် မည်သည့်အချက်များကို ဂရုပြုသင့်ကြောင်း သာဓကများဖြင့် တင်ပြပြီးပါပြီ။

ဤလက္ခဏာများတွင် မပါမဖြစ် အရေးကြီးဆုံး လက္ခဏာနှစ်ရပ်ရှိပါသည်။ မှန်ကန်မှုနှင့် ရှင်းလင်းမှုတို့ ဖြစ်ပါသည်။ မိမိက မှန်မှန်ကန်ကန် ရှင်းရှင်းလင်းလင်း ရေးနိုင်မှ မိမိဆိုလိုသည်ကို စာဖတ်သူက မှန်မှန်ကန်ကန် ရှင်းရှင်းလင်းလင်း နားလည်နိုင်မည် ဖြစ်ပါသည်။ ထိုလက္ခဏာနှစ်ရပ်နှင့် ပြည့်စုံအောင် ကြိုးစားပြီးနောက် ဆက်လက်စွမ်းဆောင်နိုင်သေးသည်ဆိုလျှင် အနုစိတ်သဘောကလေးများကိုပါ တိတိကျကျရှိအောင်၊ စကားပိုမပါဘဲ ကျစ်ကျစ်လျစ်လျစ်ရှိအောင်၊ မကွေ့မကောက်ဘဲ ပြေပြေပြစ်ပြစ်ရှိအောင်၊ ရေးသည့်အကြောင်းအရာ ရည်ရွယ်ချက် စာဖတ်သူတို့နှင့် လိုက်ဖက်ညီညွတ်အောင် ကြိုးစားနိုင်ပါက အကောင်းဆုံး ဖြစ်ပါသည်။ မှန်မှန်ကန်ကန် ရှင်းရှင်းလင်းလင်း မရေးနိုင်လျှင်မူ ကျန်လက္ခဏာများနှင့် ပြည့်စုံအောင် မည်မျှပင် ကြိုးစားသည်ဖြစ်စေ စကားပြေကောင်းဖြစ်လာမည် မဟုတ်ကြောင်း ဂရုပြုသင့်ပါသည်။

မှန်ကန်မှုနှင့် ရှင်းလင်းမှုသည် အခြားလက္ခဏာများထက် ပို၍

အခြေခံကျပြီး ပို၍အရေးကြီးသည့်အတွက် ဤစာအုပ်တွင် 'မှန်မှန်ကန်ကန် အခန်းနှင့် 'ရှင်းရှင်းလင်းလင်း' အခန်းကို အခြားအခန်းများထက် ပို၍ ကျယ်ကျယ်ပြန့်ပြန့် ရေးသားရခြင်း ဖြစ်ပါသည်။

တစ်ခုဆိုစရာရှိပါသေးသည်။ လက္ခဏာတစ်ရပ်ကို အလေးပေး လိုက်ရသည့်အတွက် အခြားလက္ခဏာတစ်ရပ် အားပျော့သွားတတ်ခြင်း မျိုးလည်း ရှိနိုင်ပါသည်။ ကျစ်လျစ်မှု လွန်ကဲသွားသည့်အတွက် စကား ထောက်ပြီး မပြေမပြစ် ဖြစ်သွားရပုံမျိုး၊ ပြေပြစ်အောင် စကားတန်ဆာ ဆင်လိုက်ရသည့်အတွက် စကားဖွာပြီး မကျစ်မလျစ်ဖြစ်သွားရပုံမျိုး၊ အကြောင်းအရာနှင့် လိုက်ဖက်အောင် ခန့်ခန့်ညားညား ရေးလိုက်ရသည့် အတွက် စကားပိုများပါပြီး မကျစ်မလျစ် ဖြစ်သွားရပုံမျိုးတို့ကို ဆိုလိုပါသည်။ မည်သို့ပင်ဖြစ်စေ မိမိဆိုလိုချက်ကို စာဖတ်သူ အပြည့်အဝ နားလည်အောင် ရေးမည်ဟူသော ခံယူချက်ဖြင့် ချိန်ချိန်ဆဆ ရေးမည်ဆိုလျှင် စကားပြေ ကောင်း ဖြစ်လာပါလိမ့်မည်။ လက္ခဏာအားလုံးမှ တစ်ပြိုင်တည်း ပြည့်စုံကောင်းမှ ပြည့်စုံပါလိမ့်မည်။ အခြေခံအားဖြင့် မှန်မှန်ကန်ကန် ရှင်းရှင်း လင်းလင်း ရှိသည်ဆိုလျှင်ပင် စကားပြေကောင်းဟု ခေါ်ထိုက်ပါပြီ။ ထို မျှမက ဤလက္ခဏာများနှင့် ပြည့်စုံသည်ဆိုလျှင်လည်း ပြည့်စုံသလောက် ကောင်းသည်ပင် ဖြစ်ပါသည်။

စကားပြေနှင့် မကင်းနိုင်သော ပြည်သူတို့သည် မိမိတို့ကိုယ်တိုင် စကားသုံးနှုန်းစရာ၊ ဝါကျဖွဲ့ရာတွင်လည်းကောင်း၊ သူတစ်ပါး၏ စကားသုံး နှုန်းပုံ၊ ဝါကျဖွဲ့ပုံကို အကဲခတ်ရာတွင် လည်းကောင်း ဤစာအုပ်တွင် ဆွေးနွေးတင်ပြခဲ့သော အချက်များက တစ်စိတ်တစ်ပိုင်း အထောက်အကူ ပြုသည်ဆိုလျှင် ဤစာအုပ် ပြုစုရသည့် ရည်ရွယ်ချက် အောင်မြင်ပါပြီ။

# ကျမ်းကိုးစာရင်း


၁။ စကားပြေ၊ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၃။ အင်္ဂလန် စတီဖင် အော်စတင်အင်ဆန်းလီမိတက် ၁၉၅၆။

၂။ ထွန်းမြင့်ဦး၊ ပါဠိသက်ဝေါဟာရအဘိဓာန်၊ ရန်ကုန်။ကုန်သွယ်ရေး ကော်ပိုရေးရှင်း (စာအုပ်နှင့် စာရေးကိရိယာ) ၁၉၆၈။

၃။ ဖေမောင်တင်၊ ဦး။ (ရွေးချယ်သူ)။ နိဒါန်း၊ အထက်တန်း မြန်မာ စကားပြေ ကောက်နုတ်ချက်များ။ ပထမတွဲ။ အောက်စဖို့ယူနီဗာစီတီပုံနှိပ်တိုက်၊ ၁၉၃၇။

၄။ ဖေမောင်တင်၊ ဦး။ မြန်မာသဒ္ဒါ နှင့် အသုံးအနှုန်း။ ရန်ကုန်၊ စာပေဗိမာန်၊ ၁၉၆၅။

၅။ ဖိုးစိန်၊ ဦး။ မြန်မာကဗျာဖွဲ့နည်းကျမ်း၊ ပထမအုပ်။ ရန်ကုန်၊ တိုးစာပုံနှိပ်တိုက်၊ ပုံနှိပ်နှစ်မပါ။

၆။ ဘသောင်း၊ သခင်။ သိပ္ပံဝတ္ထုရေးနည်း၊ လူထုအတွက် သိပ္ပံစာပေ။ ရန်ကုန်၊ စာပေဗိမာန်၊ ၁၉၆၇။

၇။ မင်းသုဝဏ်၊ စကားပြေစာပေအသက်၊ နဝရတ် ကိုးသွယ်။ ရန်ကုန်၊ နံ့သာ၊ ၁၉၆၆။

၈။ မောင်ထင်။ စာရေးလိုသော်၊ အတွေးနှင့် အရေး။ ရန်ကုန်၊ ယမုံနာ၊ ၁၉၆၆၊ ဇန်နဝါရီ။
၉။ မိုင်းခိုင်းမြို့စား အတွင်းဝန်။ ပိဋကတ်သမိုင်းစာတမ်း။ ရန်ကုန်။ သုဓမ္မာဝတီ၊ ၁၂၆၇။
၁၀။ ရွှေဥဒေါင်း၊ တစ်သက်တာမှတ်တမ်းနှင့် အတွေးအခေါ်များ။ ရန်ကုန်၊ နှလုံးလှ၊ ၁၉၆၈။
၁၁။ Flesh, Rudolf, The Art of Plain Talk, New York, Collier Books, 1973.
၁၂။ Jepson, R.W. Teach Yourself to Express Yourself, London, English Universities Press, 1955.

# ပြည်သူ့အတွက်
# မြန်မာစကားပြေ

မောင်ခင်မင်(ဓနုဖြူ)